# “အချစ်သည် တစ်ခါတစ်ရံ လမ်းမှားတတ်သည်”

(ဇာတ်လမ်းပါ အကြောင်းအရာများသည်

စိတ်ကူးယဉ်သက်သက်သာ ဖြစ်သည့်အတွက် တိုက်ဆိုင်မှုများရှိခဲ့လျှင်

ကြိုတင်ကာတောင်းပန်အပ်ပါသည်။)

# အခန်း(၁)

ကျော်ကျော်နိုင်တစ်ယောက် အဝေးပြေးကားဂိတ်ရှိ လက်မှတ်ကောင်တာမှ လက်မှတ်ဖြတ်ပြီး ကားထွက်ရန် အချိန်စောနေသဖြင့် ခရီးသည်စောင့် ထိုင်ခုံတွင် ထိုင်နေသည်။ မလေးရှားနိုင်ငံ ကမရွန်ဟိုင်းလန်းမြို့လေးမှ မိမိ အလုပ်ရှိရာ မြို့ ကွာလာလမ်ပူကို ပြန်ရန် စောင့်နေခြင်းဖြစ်သည်။

မြန်မာနိုင်ငံသား တစ်ယောက်အနေဖြင့် မလေးရှားနိုင်ငံတွင် အလုပ်လာလုပ်ကာ မြန်မာပြည်တွင် ကျန်ခဲ့သည့် မိဘတို့အား ထောက်ပံ့ရေး လုပ်နေရသည်။

မနက်အစောကြီးကတော့ ပျော်ရွှင်မှု့ ခြေလှမ်းတွေနဲ့ ဒီမြို့လေးကို ခြေချခဲ့သည်။ ချက်ချင်းကြီး ပြန်ရမယ်လို့ မထင်ထားသည့် ကျော်ကျော် အတွက်ကတော့ ပထမဦးစွာ ဒီမြို့လေးကို ခြေချမိချိန်ကတော့ ပျော်နေမိခဲ့သည်။

ချစ်ရသူ နှင်းနွဲ့နှင့် တွေ့ရမည့်အရေးကို တော်တော်ကို ပျော်ရွှင်ခဲ့ရသည်။ ရောက်ရောက်ချင်းတုန်းကတော့ ချက်ခြင်း ဖုန်းဆက်လိုက်တော့ နှင်းနွဲ့၏ အံ့သြမှု့တွေနဲ့ အသံကို ကြားလိုက်ရသည်။

“ဟယ်လို”

“ဟယ်လို နှင်း .... ကိုယ်ပါ ကျော်ကျော်လေ”

“ကျော်... အင်းပြောလေ”

“ငါ နင်တို့မြို့ကိုရောက်ပြီး အခု Taxi ငှားပြီး နင်ရှိတဲ့နေရာကို လာခဲ့မယ်၊ နင်ပေးထားတဲ့ လိပ်စာ အတိုင်းပြော ငှားခဲ့လိုက်မယ်၊ နင်ဒီကနေ့ အလုပ်မသွားဘူးမှတ်လား”

“ဟင်”

နှင်းနွဲ့ဆီမှ အနည်းငယ် တိတ်ဆိတ်သွားသည်။ ဝမ်းသာသွားတာ ဖြစ်နိုင်သည် မဟုတ်လား။

“အင်း မသွားဘူး ငါစောင့်နေမယ်”

ထိုသို့စကားသံလေးတွေ ကြားတော့ ဝမ်းသာအားရနဲ့ ကျော်ကျော် တစ်ယောက် နှင်းနွဲ့ပေးထားသည့် လိပ်စာအတိုင်း Taxi ငှားပြီး သွားလိုက်သည်။

နှင်းနွဲ့ဆီရောက်တော့ နှင်းနွဲ့၏ စိမ်းကားတဲ့ စကားသံများကို ကြားလိုက်ရပြီး ကျော်ကျော်တစ်ယောက် စိတ်ဓာတ်များကျကာ ခုတော့ အပြန်လမ်းကို ခေါင်းငိုက်စိုက်ကာ ပြန်ခဲ့ရတော့သည်။ ယခုတော့

ဝမ်းနည်းခြင်း ခံစားချက်တွေနဲ့ ဝမ်းနည်းမျက်ရည်များနှင့် အပြန်လမ်းကို ပြန်လှည့်ခဲ့ရသည်။

"ရက်စက်တယ် နှင်းနွဲ့ရယ်"

နှင်းနွဲ့နဲ့ ကျော်ကျော်ဆိုတာ တစ်ရွာတည်းနေကြသည့် ငယ်ရည်းစား အတွဲများဖြစ်သည်။ မလေးရှားကို ထွက်လာကြတော့ ကိုယ်စီ အိမ်မက်များ အကောင်ထည်ဖော်လုပ်ဆောင်ကြရန် ရည်ရွယ်ချက်များနှင့် အတူတူ ရွက်လွှင့်ခဲ့ကြသည်။

နှင်းနွဲ့နှင့် ကျော်ကျော်ဆိုတာက လူကြီးများလည်း သဘောတူပြီးသား ဖြစ်ကြသည်။ မိဘများလည်း သာမန်တောသူတောင်ယာလုပ်ငန်းဖြင့် အသက်မွေးကြသည်။ ဆယ်တန်းဖြေပြီးတော့ အဝေးသင်နဲ့ပဲ ကျောင်းတက်ခဲ့ကြပြီး မိဘလုပ်ငန်းများတွင် ကိုယ်စီ ဝင်ရောက် လုပ်ကိုင် ခဲ့ကြသည်။

တောင်သူမိသားစုများ ဖြစ်ကြသည့်အတွက် ငွေပို ငွေလျှံဆိုတာ နည်းပါးသည်။ ရာသီပေါ် စိုက်ပျိုးရေးနှင့်သာ နေထိုင်ခဲ့ရသည့်အတွက် ငွေကြေးတွင် ချောင်လည်စွာ သုံးနိုင်ကြသည့် သူများလဲမဟုတ်ချေ။

"ကျော်ရယ် ငါတို့ဘဝတွေ မပြည့်မစုံနဲ့ နေထိုင်ရတာ အဆင်မပြေ လှဘူးဟာ၊ နိုင်ငံခြားထွက်ပြီး အလုပ် လုပ်ကြမယ်နော်"

နှင်းနွဲ့ဘက်က စတင် တောင်းဆိုလာတော့ သူလည်း သဘောတူခဲ့သည်။ ထိုကြောင့် လူကြီးတွေကို ကိုယ်ဆီ အပူကပ်ပြီး နိုင်ငံခြားသို့ ထွက်ခွာ၍ အလုပ်လုပ်ရန် တောင်းဆိုကြတော့ အစပထမတွင် သဘောမတူသော်လည်း သူတို့နှစ်ယောက်ကို သနားကြသဖြင့် သဘောတူခဲ့ကြသည်။

မလေးရှားကို ထွက်ရန်ပြင်ဆင်ကြတော့လည်း နှစ်ယောက်သားရဲ့ မိဘများက ခရီးစရိတ်နှင့် အခြားစရိတ်များ အတွက် ငွေခက်ခဲကြသဖြင့် အခြားသူများထံမှ ချေးငှားပေါင်းနှံပြီးမှ မလေးရှားသို့ ထွက်ခဲ့ရသည်။

နှင်းနွဲ့ နှင့်အတူတူ မလေးရှားကို ထွက်ခွာရန် အတူတူကြိုးစားလုပ်ကိုင်ပါသော်လည်း ကံအကြောင်း မလှပစွာ တစ်ယောက်တစ်နေရာစီ ကွဲကွာကာ၊ ကုမ္ပဏီ မတူသလို အလုပ် လုပ်ရသည့်နယ်မြေလည်း မတူခဲ့ပေ၊

မလေးရှားနိုင်ငံသည် အပူပိုင်းဇုံထဲတွင် ပါရှိခဲ့သည့်အတွက် ပူအိုက်လှသည်။ နှင်းနွဲ့နေသည့် ကမရွန်ဟိုင်းလန်ကတော့ ၁၂ ရာသီအေးနေသည်။ တောင်ပေါ်ဒေသရှိ မြို့ကလေးဖြစ်သည်။ ထိုကမရွန်ဟိုင်းလန်မြို့ကို ဥပမာ အနေဖြင့် တင်စားရလျှင် ကလောမြို့လေးလို တောင်ပေါ်ဒေသဖြစ်ပြီး ရာသီဥတုကလည်း အမြဲအေးနေသည်။

ကျော်ကျော်က မလေးရှားနိုင်ငံ ကွာလာလန်ပူ မြို့နှင့်နီးကာ အလုပ်လုပ်ခဲ့ရသလို၊ နှင်းနွဲ့ကတော့ မလေးရှားနိုင်ငံ၏ ကမရွန်ဟိုင်းလန် မြို့မှာ အလုပ် လုပ်ခဲ့ရသည်။ နေရာ ဒေသကလဲဝေးကာ လုပ်ခဲ့ရသော ကျော်ကျော်နှင့် နှင်းနွဲ့ကတော့ အစပထမမှာ ဖုန်းဖြင့် အဆက်သွယ်လုပ်ကာ ပြောဆိုကာ အလွမ်းဖြေခဲ့ရသည်။

> "ငါတို့ကြောင့် ရွာမှာကျန်ခဲ့တဲ့ မိဘတွေမှာ အကြွေးတွေနဲ့နော်၊ လကုန်တိုင်း လစာထုတ်ပြီး မှန်းသလောက် မရမှာကို ကြောက်လာတယ်ဟာ"

အစကတော့ မလေးရှားကို အလုပ်သွားလုပ်ရင် ငွေပုံကြီးပဲရတော့မှာလိုလို အထင်တွေအရမ်းကြီးခဲ့မိတယ်။ နောက်ပိုင်းတော့ အလုပ်ချိန်ထက် ကျော်လွန်ပြီး လုပ်ရပေမယ့် ရရှိတဲ့ငွေက နည်းလွန်းတဲ့လဆိုရင် အစားအသောက်နှင့် အခြားသော အပိုငွေမထွက်အောင် ခြွေတာဖို့ နှစ်ဦးသဘောတူ ဆုံးဖြတ်ခဲ့ကြပြန်သည်။

လွမ်းနေခဲ့ရသောလည်း နောက်ပိုင်း အကြောင်းပြချက် အမျိုးမျိုးပေးကာ တစ်ဖြေးဖြေးချင် ဝေးလာသလို စိမ်းလာသည်ဟု ခံစားရသည်။ တစ်ခါတစ်ခါ နှင်းနွဲ့ဆီက ဝမ်းနည်းသံတစ်ချို့ ရှိနေသည်ဟုလည်း ခံစားရသည်။ တစ်နှစ်အတွင်း အကြွေးတွေကြေခဲ့လို့ ပျော်ရပေမယ့်

အနေစိမ်းလာတဲ့ နှင်းနွဲ့ရဲ့ အပြုအမူတွေ ကြောင့် ကျော်ကျော်မှာ နှင်းနွဲ့ကို လာတွေ့ဖို့ ဆုံးဖြတ်ချက် ချလိုက်တော့သည်။

"ကွာလာလန်ပူ (Kuala Lumpur) သို့ လိုက်ပါကြမည့် ခရီးသည်များရှင့် ကားထွက်ခွာတော့မည် ဖြစ်ပါသဖြင့် ကားပေါ်သို့ တက်ရောက် နေရာယူကြပါရန် တောင်းခံအပ်ပါသည်။ ကျေးဇူးတင်ပါတယ်ရှင့်"

မိုက်(စ)ဖြင့် သတိပေးသံထွက်လာတော့ နှင်းနွဲ့အကြောင်း တွေးနေတာတွေကနေ သတိပြန်လည် ရောက်ရှိလာ တော့သည်။ ကျော်ကျော် မိမိတက်ရမည့် ကားပေါ်သို့ တက်ရန် ပြင်ဆင်လိုက်သည်။

အွန့်..

နောက်ကစောင့်တွန်းလိုက်သော လူတစ်ယောက်ကြောင့် ကျော်ကျော် တစ်ယောက် အဝေးပြေးကားဂိတ်ရှိ လက်မှတ်ဝယ်ထားသော ကားပေါ် တက်ရန် ဟန်ပြင်နေသော ခြေလှမ်းများ ယိုင်သွားသည်။ လူက ညစ်နေပါသည် ဆိုမှ ကံကြမ္မာက ကြည်စယ်နေပြန်သည်။

"အာ sorry abang (အစ်ကို)"

(မှတ်ချက် ၊ ဇာတ်လမ်းတစ်ခုလုံး အဆင်ပြေရန်အတွက် မလေး ဘာသာစကားများကို ထည့်သွင်းမပြောပဲ မြန်မာလိုသာ ရေးခွင့် ပြုပါရန် တောင်းပန်အပ်ပါသည်။ )

ကျော်ကျော်နောက်မှ တွန်းလိုက်သော မလေးရှားလူမျိုး ကောင်လေးကို ကျော်ကျော် ဘာမှ မပြောလိုတော့သည့် ဟန်ပန်နှင့် ပြန်လည် မပြော တော့ဘဲ နေလိုက်သည်။

"မင်းတို့တွန်းတာ ကြည့်လုပ်ကြ ဘေးကလူတွေကို အားနာစရာ ဖြစ်ကုန်ပြီး"

ထိုကောင်လေးကတော့ သူ့၏ ဘော်ဒါများကို အပြစ်တင်သံဖြင့် ပြောကာ ကျော်ကျော်အား တောင်းပန်သွားသည်။ ကျော်ကျော်မှာတော့ စိတ်ဓာတ် က ကျနေသည့်ကြားထဲ အခန့်မသင့်သည့် ကိစ္စရပ်များကြောင့် မခံချင် မခံသာ ရှိနေခဲ့သည်။

အော်..မိမိနိုင်ငံ မဟုတ်သည့် မလေးရှား နိုင်ငံတွင် အလုပ်လုပ်ရန် ရောက်လာသော ကျော်ကျော်ကတော့ သည်းခံရင်းဖြင့် ဘာတတ်နိုင် မည်နည်း။

မလေးရှားနိုင်ငံသို့ မထွက်လာခင်တုန်းကတော့ မြန်မာပြည်တွင်းရှိစဉ် လူကြီးသူမများ ပြောခဲ့သော စကားကို ပြန်လည် ကြားယောင်မိပြန်သည်။

"ကိုယ့်နိုင်ငံမှာ မဟုတ်တဲ့ နေရာမှာ သည်းခံပြီး နေနိုင်ရမယ့်ကွယ့် ကိုယ်နိုင်ငံမှာ ကိုယ်က ကြက်ဖဖြစ်ပေမယ့် သူများနိုင်ငံ ရောက်ရင်တော့ ကြက်မလို နေရမယ်"

"ဟင်...လူကဘယ်လို လုပ်ပြီး ကြက်မလို မျိုးနေရမှာလဲ.. နေချင်ပါဘူး သားက ဥမှ မဥတတ်တာကိုး"

"တယ်လေ"

ကျော်ကျော်ရဲ့ ရွှတ်နောက်နောက်နဲ့ ပြန်ပြောတော့ ကြီးမေက ခေါင်းကို ခေါက်ရန် လက်နဲ့ရွယ်ကာ ဟန်လုပ်ပြ နေသည်။ ကျော်ကျော်ကတော့ ရယ်၍သာ ကြီးမေကို ကြည့်နေလိုက်သည်။

"ဟုတ်တယ်လေ ကြီးမေကလည်း ကြက်မလိုနေရင် ဥနေရအုံးမယ်"

"ဟဲ့ ...စကား အဖြစ်ပြောတာ ငါတီးလိုက်ရ"

သြော်ခုတော့ ကျော်ကျော် ကြက်မကြီးလို ကတော်ကတော်နဲ့ ဥရတော့မယ်နဲ့ တူသည်။ ရွာက လူကြီးတွေကို လည်း နှင်းနွဲ့နှင့် သူ့ကိစ္စကို ဘယ်လိုပြန်ပြောရမှန်းလည်း မသိတော့ချေ။

မိမိကို လာတိုက်သော ထိုအုပ်စုကတော့ ကျော်ကျော်တက်မည့် ကားပေါ်တက်ကာ သွားတော့သည်။

ကားပေါ်ရောက်တော့ ကျော်ကျော် လှုပ်ချင်ကိုင်ချင်စိတ်မရှိတော့ စိတ်ဓာတ်တွေလည်း ဘုံဘုံကျနေပြီးဖြစ်သည်။ ထိုကြောင့် မိမိ လက်မှတ်ထိုင်ခုံမှာ ထိုင်ရင်း ကားထွက်မည့် အချိန်ကိုသာ ကားမှန်ဘောင်ကို ခေါင်းတင်ပြီး စောင့်နေပါတော့သည်။

> "လုပ်ရက်တယ် နှင်းနွဲ့ရယ် နင်ငါ့ကိုရက်စက်တယ်လို့တော့ မပြောချင်ပါဘူး ငါ့ကံကြမ္မာ ကိုက မလှပတာပါ၊"

> ဝေး....ဝါး....ဟေး....

စိတ်ညစ်နေသော အချိန်တွင် ကားပေါ်တွင် အရင်တက်နှင့်သော မလေးနိုင်ငံသား မျောက်လောင် အဖွဲ့က ရှိနေသည်။ ကျော်ကျော်နှင့် ရွယ်တူလောက်ရှိသည့် ထိုအဖွဲ့ကြောင့် လွမ်းသည့် ဝေဒနာလေးပင် လွင့်ထွက် သွားတော့သည်။

ထိုလူရွယ်များ၏ အခြေအနေကို အကဲခတ်လိုက်လျှင် ပိုက်ဆံရှိ သားသမီးများ ဖြစ်မည်ဆိုသည်ကို သိသာ လွန်းလှပါသည်။ တစ်ခြားသော အခြေအနေများတွင် ကျော်ကျော်တစ်ယောက် ဘယ်လိုမှ မဖြစ်ပေမယ့်

ယခုသော စိတ်တွေညစ်နေသည့် အချိန်များတွင် စိတ်များလွတ်ကာ ထပေါက်ကွဲပစ် လိုက်ချင်သည်။

လူရွယ်များကလည်း ၉ ယောက်လောက် ရှိမည်ထင်သည်။ မိမိဘေးသို့ ထိုအဖွဲ့ထဲမှ လူရွယ်တစ်ယောက် ဝင်ထိုင် လိုက်သောကြောင့် ကျော်ကျော် ပင် စိတ်ရှုပ်သွားသည်။

သွားပြီး ဒီည ခရီးတော့ မလှပတော့ချေ၊ စိတ်ဓာတ်က ကျနေပါသည်ဆိုမှ၊ ဟိုး အဝိစိသို့ ဆင်းသွားတော့သည်။ သူ့အတွက်တော့ အကုသိုလ်များ အလုံးလိုက် ဝင်လာသလို ကောင်းကောင်း နှိပ်စက်ခံရတော့မည်။

သူတို့အဖွဲ့များကလဲ ပျော်ရွှင်နေကြသည်မှာ ဘေးလူများကို ဂရုမစိုက်ချေ။ ကားစတင် ထွက်တော့ ည ၉ နာရီကျော်ချေပြီး၊ ကွာလာလန်ပူ ကိုရောက်မည့် အချိန်က မနက်မိုးလင်းမှ ဖြစ်တော့မည်သာ။ ကျော်ကျော် လည်း မျက်လုံးကို ဇွတ်မှိတ်ထားရင် စိတ်က နေ့လည်က အဖြစ်ကို ပြန်မြင်ယောင်သွားသည်။

< < < < < < <        > > > > > > > > > >

နှင်းနဲ့နှင့်တွေ့လျှင် လွမ်းနေတာကိုပြောပြမယ် ပြောပြီး အလွမ်း သည်မယ်လို့ စိတ်ကူးထားတာတွေ ကိုပြောမည်ဟု စီစဉ်ထားသည့် ကိစ္စများ Taxi ပေါ်မှာတုန်းကတော့ အပျော်တွေနှင့် ပြည့်နှက်နေသည်။

နှင်းနွဲ့ပြောသည့် နေရာသို့ရောက်တော့ နှင်းနွဲ့က သူ့ကို ကြိုတင်စောင့်နေပြီး၊ ကားပေါ်က ဆင်းလျှင် ဆင်းခြင်း နှင်းနွဲ့ကြိုဆိုပုံက အေးတိအေးစက်နှင့် ဖြစ်နေသည်။

ထို့နောက် နှင်းနွဲ့က ဦးဆောင်ကာ သူနှင့်အတူ ကော်ဖီဆိုင်ရှိ ခုန်လွတ်ဝိုင်းတစ်ခုတွင် ဝင်ထိုင်လိုက်ပြီး သူ့အတွက် ကြိုတင်မှာထားသော ကော်ဖီနှင့် မုန့်ပန်းကန်လည်း ရှိနေသည်။ နှင်းနွဲ့၏ အေးတိအေးစက်နှင့် သူ့အပေါ် ဆက်ဆံနေသည့် အနေထားက မနက်က နှင်းနွဲ့နှင့် မတွေ့ခင် ပျော်ခဲ့သည့် အပျော်များ ပျောက်ကုန်တော့သည်။

ကော်ဖီပင် မသောက်ရသေးဘဲ နှင်းနွဲ့၏စကားများကြောင့် သူပိုလို့ပင် ကြေကွဲခဲ့ရတော့သည်။

"နှင် .. ငါ့ကို မေ့လိုက်တော့"

တွေ့တွေ့ချင်း နှင်းနွဲ့နှုတ်ဖျားကကျလာသည့် စကားသံက လုံးဝကို နားဝင်မချိုဘဲ ခါးသက်နေသည်။ ချစ်သူဆိုပြီး လွမ်းကြောင်း၊ သတိရနေကြောင်း ပြောရမည့် စကားထက် ခုတော့ လမ်းခွဲစကားကို စတင်ပြီး ကြားလိုက်ရသည်။ ဘယ်သူက ထိုစကားလုံးကို လက်ခံကြည်နူးနိုင်မှာနည်း။

မျက်ဝန်းထဲမှ မျက်ရည်ကြည် တစ်စကို သုတ်လိုက်ပြီး၊ မကျသင့်ဘူးဟု တင်းထားတဲ့ကြားကပင် ဆုံးရှုံးလိုက်ရတဲ့ အသိတစ်ခု အရှုံးသမား ဘဝကို သိရှိပြီး မျက်ရည်က ကျဖြစ်အောင် ကျလိုက်သေသည်။ မျက်ရည်တစ်စ နဲ့အဆုံးသတ်ပြီး ပါသွားစေချင်သည်။ မိမိရှေ့တွင် ထိုင်နေသော နှင်းနွဲ့ကို မမှတ်မသုန် စိုက်ကြည့် နေရင်း သူမပြောလိုက်သည့် စကားတစ်ချို့က ကြားရသည်က မချိုမြိန်ပါဘူး။

လမ်းခွဲဖို့ ပြောတဲ့စကား နုတ်ဖျားက ထွက်လာတာတော့ လွယ်သလောက် တစ်ကယ်တမ်း ကျတော့ မေ့ရမည့်အကြောင်းကတော့ ခက်ခဲလွန်းလှသည် မဟုတ်လား။

"ငါဘာမှားလို့လဲ နှင်းရယ်"

"နင်မမှားပါဘူး ဘယ်သူမှ မှားနေကြတာ မဟုတ်ဘူး၊ မှားနေတာက ငါပါ နင့်အပေါ်မှာ သံယောဇဉ်ရှိတာက ငယ်သူငယ်ချင်းထက် မပိုတာပါ အဲ့ဒါကိုပဲ ငါက မှားယွင်းပြီး နင့်အပေါ်မှာ ချစ်တယ်လို့ ထင်မှတ်မိခဲ့တာ ခုတော့ ငါချစ်ရမယ့်ချစ်သူလဲ တွေ့ခဲ့ပြီးလေ"

"မဟုတ်ပါဘူး နင့်ဆီကို ငါမလာနိုင်လို့ နင်က စိတ်ဆိုးပြီး..."

ကျော်ကျော်နိုင် ဆိုတဲ့ကျွန်တော် စကားပင် လမ်းခုလက်မှာရပ်သွားသည်။ နှင်းနွဲ့၏ လက်ကာပြီး သူရဲ့ စကားကို ဖြတ်လိုက်လို့လည်း အပြီးဆုံးတိုင် မပြောနိုင်တော့ချေ။

"အဲ့ဒီလို မဟုတ်တာတွေ မတွေးနဲ့ နင်လာတာ မလာနိုင်တာနဲ့ မဆိုင်ပါဘူး နင်လဲ မလေးရှားမှာ အလုပ် လာလုပ်နေတာ ငါနားလည် နိုင်တာပေါ့ နင်နေတဲ့ ကေအယ်(လ) နဲ့ ငါနေတဲ့ ကမရွန်ဟိုင်းလန်နဲ့က လာရင်တောင် နေ့ချင်းပြန်ဆိုတဲ့ အနေထား တွေက မဖြစ်နိုင်တာ"

"ဟုတ်တော့ ဟုတ်ပါတယ် ဒါပေမယ့် ငါရောက်လာသင့်တယ် မဟုတ်လား မလေးရှားမှာ နေတာ တူနေပြီးလေ ရေမြေခြားနေတဲ့ နေရာမှ မဟုတ်တာ၊ခုတော့ တစ်နှစ်ဆိုတဲ့ အတိုင်းအတာတစ်ခုက နင့်အပေါ်ကို ရက်စက် နေပြီးထင်တယ်"

"မဟုတ်ပါဘူး နင်လဲသိနေတာပဲ၊ ပြီးတော့ ငါတို့ မိသားစု၊ နင်တို့ မိသားစု အခြေအနေတွေရယ် နင်နဲ့ငါရဲ့ အခြေအနေတွေရယ် ပြန်လည် သုံးသပ်ကြည့်လိုက်ရင် ဘယ်လိုမှ မနီးဆက်နိုင်ဘူး။ စိတ်ကူးယဉ်တာတွေ က တစ်ခါတစ်လေ အသုံးမဝင်ဘူးလေ သုံးည နဲ့ သုံးည ပေါင်းရင် ဘာကိန်းဂဏန်းမှ ထွက်လာမှ မဟုတ်တာ"

နှင်းနွဲ့ဆီက တစ်ခါမှ မကြားဖူးသည့် ငွေကြေးတိုင်းတာမှုတွေကို သူ မယုံနိုင်စွာ ကြားလိုက်ရသည့် အတွက် ရင်ထဲ တော်တော်စိတ်မကောင်းဘဲ ဖြစ်သွားသည်။

နှင်းနွဲ့၏ ပုံမှန်လေသံ မျက်နှာ အနေအထားက သာမန်လို အေးအေးလေး ထွက်လာပေမယ့် ကျော်ကျော်နိုင် ရင်ထဲမှာတော့ ဝမ်းနည်းသည့် လျှော်ရည်ပူများ စီးဆင်းနေပြီးလေ။

“ဒါပေမယ့် ငါတို့နီးဖို့ ကြိုးစားရမယ်လေ”

သူအတတ်နိုင်ဆုံး နှင်းနွဲ့အား ဖျောင်းဖြရန် ကြိုးစားမိသည်။

“ဘယ်လောက် ကြိုးစားမှာလဲ၊ လေးနှစ်လား၊ ငါးနှစ်လား၊ နောက် ဆယ်နှစ်မှလား”

ကျော်ကျော်ရင်ထဲမှာ မျက်ရည် ဗုန်း တစ်မြေ့မြေ့နဲ့ ကွဲနေပြီး၊ အတူတူ ရည်းမှန်း ထားခဲ့ကျတဲ့ အရင်က အိမ်မက်လေးတွေလည်း ပြောင်းလဲ ကုန်ပြီး၊ ပျက်စီးသွားလေပြီး။

အရင်တုန်းက ဆိုရင် လေ

"ငါတို့တွေ မလေးရောက်ရင် အတူ နေနိုင်အောင် ကြိုးစားကြ မယ်နော်"

"မရှိဆိုတဲ့ စကားလုံးတွေ မရှိတဲ့ဘဝက လွတ်အောင် နေကြမယ်နော်"

"ငါတို့တွေရဲ့ ရင်ခုန်သံတွေကို သစ္စာဆိုတဲ့ မေတ္တာကြိုးနဲ့ ခိုင်မြဲစွာ ချည်နှောင် ကြမယ်နော်"

စသည်သော် စကားများလဲ ပြောင်းလဲကုန်ပြီး၊ ကံကြမ္မာကလှပစွာ မျက်လှည့်ပြသွားခဲ့ချေပြီ။ မသိ မရောက်ဖူးသော် တစ်နယ်ရပ်သို့ သူသတ္တိတွေမွေးကာ ရောက်လာခဲ့သည်။ ခုတော့ သူကို နှင်းနွဲ့ က ဆိုင်းမဆင့် ဗုံးမဆင့်ဘဲ ဝမ်းနည်းမှုတွေနဲ့ ကြိုဆိုနေသည်။

ကျော်ကျော်မဟုတ်တဲ့ တခြား သူစိမ်းတစ်ယောက် ယောကျ်ားနှင့် အတူတူနေထိုင်သည့်သတင်းကို သူမကိုယ်တိုင် ပေးလာခဲ့ပါသည်။

“အခု ငါလည်း ငါသဘောကျ နှစ်သက်တဲ့ ငါ့အမျိုးသားနဲ့ အတူတူ နေတယ်၊ ခုတောင် ငါတို့ကို ဟိုးဘက်စားပွဲ မှာ ထိုင်စောင့်နေတာ”

နှင်းနွဲ့ လက်ညိုးညွှန်းရာကို သူ ယောင်းရမ်ပြီး လိုက်ကြည့်မိသည်။ ခုလာတွေ့တာတောင် သူတို့နှစ်ယောက် လွတ်လွတ်လပ်လပ် စကားပြောစေရန်အတွက် ထိုနှင်းနွဲ့နှင့်ပက်သက်နေသူက တစ်ခြားဝိုင်းတွင် ထိုင်၍ နှင်းနွဲ့ကို စောင့်နေသည်။

"ငါ့ကို ခွင့်မလွှတ်ပါနဲ့ဟာ၊ အခုဆိုရင် ငါလဲ ငါ့ရဲ့တက်လမ်းအတွက် အခြားတစ်ယောက်ကို အားကိုးမှု ရှာလိုက်ရတာ နှင့်အပေါ် ထားရှိတဲ့ သစ္စာတွေ ဖျက်လိုက်ရတာအတွက် ငါတောင်းပန်ပါတယ်"

ကျော်ကျော်ရင်ထဲမှာ ဆိုနင့် ကြေကွဲရသည်။ မည်သို့မှပြန်မပြောနိုင်ပါ။

"နှင့်ကိုလည်း ငါမညာချင်ပါဘူး အစကတော့ ငါလည်း......"

နှင်းနွဲ့၏ စကားရပ်သွားသောကြောင့် နှင်နွဲ့ကို သူကြည့်လိုက်သည်။ မျက်ရည် တစ်ချို့ကို သိမ်းလိုက်သည်ကို တွေ့လိုက်ရသည်။

"နှင်ပျော်တယ်ဆိုရင်တော့ ငါကျေနပ်ပါတယ်"

"ပျော်တယ် ဟုတ်လား"

"ဟင် ..."

နှင်းနွဲ့၏စကားကြောင့် သူကြောင်ကာကြည့်လိုက်သည်။

"မပျော်လို့လား ငါ့ထက်ပိုချစ်ရသူနဲ့ တွဲနေတာကို"

"အင်း...ဟုတ်ပါတယ် ငါပျော်ပါတယ်၊ အပျော်ဆိုတာထက် ငါ လုပ်သင့် လုပ်ထိုက်တာကို လုပ်လိုက်တာပါပဲ၊ တစ်ခါတလေ နှလုံးသားထက် ဦးနှောက်က ရွေးချယ်တဲ့အရာကို ဦးစားပေး

လိုက်တာက ပိုပြီး ကောင်းမွန်တဲ့ လမ်းကောင်းတစ်ခုဖြစ်ချင် ဖြစ်နိုင်တယ်၊ အင်း ရွေးချယ်မှုက မှားယွင်းပြီး ပျက်စီးသွားရင်လဲ ရွေးချယ်သူရဲ့ ကံကြမ္မာပဲပေါ့၊ ဘယ်တတ်နိုင်မှာလည်း၊ ကဲ နှင်ပြန် တော့မယ် မဟုတ်လား"

"ဘာလဲ ငါ့ကိုနှင်ပြီးလား မမြင်ချင်တော့ဘူးလား အရင် ငယ်သူငယ်ချင်းဆိုတဲ့...."

"မဟုတ်ဘူး... ငါ...ငါ မပြောတတ်ဘူး နှင့်ကိုအားနာတယ် ပြီးတော့ ဒီအတိုင်းကြီးလည်း မကြည့်ချင်ဘူး၊ ရှင်းရှင်းပြောရရင် နှင့်ကို တွေ့ရမှာ မျက်နာတောင် ပူတယ်၊ တစ်ကယ်လည်း နှင့်ကို မျက်နာချင်း မဆိုင်ရဲဘူး"

ကျော်ကျော် နှင်းနွဲ့ကိုစိတ်မကောင်းစွာ ကြည့်လိုက်သည်။

"နှင်ပြန်တော့ ဟာ"

"ဘယ်လို"

"ဟုတ်တယ် နှင်ပြန်တော့"

ကျော်ကျော်တစ်ယောက် နှင်းနွဲ့အား စိတ်နာကျင်စွာ ကြည့်လိုက်ပြီး ထထွက် လာခဲ့တော့သည်။ ထိုအချိန်ကသာ ကျော်ကျော်နောက်သို့

လှည့်ကြည့်လိုက်မယ် ဆိုခဲ့လျှင် အံ့သြစရာကောင်းသော နှင်းနွဲ့ ပါပြင်းပေါ်က မျက်ရည်တစ်ချို့အား တွေ့မြင်ခဲ့မည်ဖြစ်သည်။

ကျန်ခဲ့သော နှင်းနွဲ့ကတော့ ကျော်ကျော် နောက်ကျောပြင်ကိုကြည့်ကာ ဝမ်းနည်းစွာ မျက်ရည်များ ထွက်လာတော့သည်။

<<<< ငါကိုခွင့်လွှတ်ပါကျော်ရယ် ငါ့ရဲ့မသန့်ရှင်းတဲ့ခန္ဓာကိုယ်နဲ့ နင်လိုဖြူစင်သူအတွက် မထိုက်တန်ပါဘူး နင်သာ ငါ့အကြောင်း တွေ အမှန်ကန် သိခဲ့မယ်ဆိုရင်လေ ငါမလိုချင်တဲ့ ဘဝကို နင်တိုးဝင်လာမယ်ဆိုတာ ငါသိပါတယ် နင်ဒီအတိုင်းလေပဲ မသိရှိပဲ နေသွားတာ ကောင်းပါတယ် ကျော်ရယ် >>>

“ဒီလောက် အလွမ်းသည်းရရင် တော်ပြီးပေါ့ မင်းကောင်လည်း သွားပြီး လာပြန်မယ်”

နှင်းနွဲ့လက်ကိုလာဆွဲသော လူကြောင့် နှင်းနွဲ့ကျော်ကျော် နောက်ကျောကို မမြင်ရဘဲ ကြည့်နေရာကနေပြီး ဘာမှမပြောနိုင်တော့ပဲ ထလိုက်ပါ တော့သည်။

******** ********* **************

ဘယ်ရှေးရေစက်များလည်းမသိ ကားပေါ်တွင် ကျော်ကျော် ထိုင်ရသည့် ဘေးခုန်က ကျော်ကျော်ကို တိုက်သွားသော မလေးကောင်လေးနှင့် တွဲထိုင်ရသည်။ သူတို့လာခဲ့သည်ကလည်း မဂဏန်းအုပ်စု ဖြစ်နေသောကြောင့် သူ့တို့အချင်းချင်း တွဲထိုင်မရဘဲ တစ်ယောက်သော သူကတော့ ကျော်ကျော်နှင့် လာထိုင်ရပါသည်။

စိတ်ကလည်း ညစ်သလား မမေးနဲ့တော့၊ ကံဆိုးထီးသွားရာ မိုးလိုက်လို့ ရွာလေပြီး ကံဆိုးမလို့မပြောချင်ပါဘူး ကိုယ်က အထီးဆိုတော့ အထီးပဲ ထည့်သုံးရမှပဲလေ။

ကျော်ကျော်တို့ ကားပေါ်မှာတော့ ထိုမျောက်လောင် လေးအုပ်စုကတော့ ပွက်လောကို ရိုက်နေတာပါပဲ ကျော်ကျော် လွမ်းတာတောင် ကောင်းကောင်း မလွမ်းရပါပဲ ဖီးလင်(လ်) ပျက်ပါသေးသည်။ အော် ဘဝဘဝ....

ကျော်ကျော် မျက်စိကိုအတင်းမှိတ်ကာ ထားလိုက်တော့သည်။ ကားက တော့ စထွက်ပါလေပြီး ပျော်လို့နေခဲ့တော့ နှင်းနွဲ့ရယ်...

ကားစတင်ထွက်ခွာပြီး ကားပေါ် တစ်နာရီလောက်ကြာတော့ ကားပေါ်မှာ အားလုံးငြိမ်သက် သွားတော့သည်။ မျောက်လောင်းလေတွေလည်း အိပ်စက်ကုန်ပြီး ကျော်ကျော်လည်း ခုမှ လွတ်လွတ်လပ်လပ် လွမ်းလို့

ရပြီးလေ။ လမ်းကတော့ ကျွန်တော်တို့မြန်မာပြည်က ရှမ်းပြည်နယ် တောင်ကြီးကိုသွားသော လမ်းလိုမျိုး တောင်တွေကို ကွေ့ပတ်၍ ဖောက်လုပ်ထားသည်မှာ လွန်စွာမှလှပပါသည်။

ကမရွန်းဟိုင်းလန် မြို့ကလေးသည် တောင်ပေါ် မြို့လေးဖြစ်သည်။ ထိုမြို့သည် အမြဲပင် အေးနေသည်။ တောင်တွေကြားထဲ ဖေါက်လုပ်ထားသည့် ကားလမ်းကြီးကလည်း တော်တော်လှပသည်။ ကားလမ်းဘေးတစ်လျှောက်တွင်လည်း တောတောင်များနှင့် စိမ်းဆိုနေသည်။ သစ်ပင်ကြီး၊ ငယ်၊ အလတ်များလည်း ပေါက်ရောက်စိမ်းဆိုနေသလို၊ တောင်ယာ စိုက်ခင်းများလည်း ပြည့်နေသည်။

ကွာလာလန်ပူက ရန်ကုန်ဆိုလျှင် ကမရွန်းဟိုင်းလန်းက ကလော လို့တောင် ဥပမာတင်စားလို့ရသည့် တောင်ပေါ်မှာတည်ရှိသည့် မြို့ကလေး ဖြစ်နေသည်။

ကျော်ကျော်တစ်ယောက် နှင်းနွဲ့အပေါ်မှာ တာဝန်တွေ ဝတ္တရားတွေ ပျက်ကွက်ခဲ့သည့် အတွက် လွန်စွာမှ စိတ်မကောင်းအောင် ဖြစ်ရသည်။ ဘေးပတ်ဝန်ကျင်ကို ငေးပြီး သွားပေမယ့်လည်း အတွေးခေါင်းထဲကို နှင်းနွဲ့ အကြောင်းပဲ ဝင်ရောက်လာသည်။ ကားကလည်း တစ်အိအိနှင့် ထွက်ခွာနေသည်။ ကားပေါ်ရှိ အားလုံးကလည်း ကိုယ်စီ အနားယူ နေကြကာ တိတ်ဆိတ်နေသည်။

ထိုစဉ် -

"ဝုန်း..ဒိုင်း..."

"အောင်မလေး.."

"အား..."

ကားဘာဖြစ်သွားသည်မသိ ရုတ်တရက် ထိုးရပ်သွားပြီး ငြိမ်သက်နေသည့် ကားပေါ်ရှိ ခရီးသည်များ အားလုံးမှာ ရုတ်ရုတ်သဲသဲ ဖြစ်ကုန်ပါသည်။

"ဘာဖြစ်တာလဲ"

"မသိဘူး"

"ကားဘီး ပေါက်တာလား"

"အပြင်က ကားရှေ့မှာလည်း လူတွေနဲ့"

ကားပေါ်ရှိလူအားလုံးလည်း ကားသမားကို မေးသူနှင့် အချင်းချင်း မေးသူနှင့် အသံများနှင့် ဆူညံသွားတော့သည်။ ခရီးသည်တွေ ရုတ်ရုတ်သဲသဲ ဖြစ်နေချိန်မှာတော့ မျောက်လောင်းလေတွေကတော့ ညိမ်လို့ သူတို့လိုပဲ ကျော်ကျော်လည်း ညိမ်နေလိုက်ပါသည်။ ဘာဖြစ်မှန်းတော့ မသိလိုက်ပါဘဲ ဒီအတိုင်းထိုင်နေဖြစ်သည်။

ထိုအချိန်တွင် ရှေ့မှလူများ ကြောက်လန့်တကြား အော်သံကြောင့် ကျော်ကျော် ထကြည့်လိုက်တော့ မျက်နှာဖုံးအမည်းများစွပ်ထားသော လူတစ်ချို့ ကားပေါ်တက်လာပါသည်။ လက်ထဲမှာလည်းသေနတ် များဖြစ် ကျော်ကျော် ကြောက်လန့်တကြား ခုမှ ထိတ်လန့်သွားပါသည်။

"တစ်ယောက်မှမလှုပ်နဲ့ ဖုန်းတွေလည်းကိုင်ဘို့ မစဉ်းစားနဲ့ မသေချင်ရင် ညိမ်ညိမ်နေကြ"

ဝုန်း....

ခရီးသည်အားလုံးလည်း ခေါင်းငုံ့ထားကြသဖြင့် ကျော်ကျော်လည်း ခေါင်းကိုငုံ့ကာ ရသမျှ ဘုရားစာများ ရွတ်နေမိပါသည်။ ကြောက်၍ ရွတ်နေသော ဘုရားစာများပင် တောင်ရောက် မြောက်ရောက် ဖြစ်ကုန် သည်။ ဘာတွေလုပ်နေကြသည် မသိသော ဓားပြအဖွဲ့များက တစ်ယောက်ပြီး တစ်ယောက်လိုက် ကြည့်နေရင်းမှ မျောက်လောင်းအဖွဲ့မှ တစ်ချို့ကို ဆွဲခေါ်ထုတ်နေသည်။

ကျော်ကျော်ဘေးတွင် ထိုင်နေသော မျောက်လောင်းလေးကို ဆွဲခေါ်လိုက် ချိန်မှာတော့

"အ...အ.."

ကျော်ကျော် ခြေထောက်လည်း ပါသွားသည်။ ဘာဖြစ်သည်ကို မသိ၍ သိချင်သည့် စိတ်ကြောင့် ကျော်ကျော် ကြည့်လိုက်တော့ ဘယ်အချိန် ကတည်းက မျောက်လောင်းအဖွဲ့က တစ်ယောက်က လာနောက်ထား သည်မသိ ကျော်ကျော် ဖိနပ်ကြိုးနှင့် ထိုမျောက်လောင်းလေး၏ ဖိနပ်ကြိုး ကို ပူးတွဲချည်ထားသည်ကို တွေ့လိုက် ရတော့သည်။

ကျော်ကျော်က အတင်းရုန်းပေမယ့် ခြေထောက်က တန်းလန်း ပါသွားသည်။ ဓားပြက မျောက်လောင်းလေးကိုအဆွဲ လူကပါသွားပြီး ခြေထောက်က တန်းလန်းကြီးနှင့် ယက်ကန်ယက်ကန် ဖြစ်နေတော့သည်။ ကျော်ကျော် ဖိနပ်ကို အတင်းချွတ် ပါသော်လည်း မမှီတော့။

"မင်းက ဘာလုပ်နေတာလဲ သွား မင်းပါ လိုက်ခဲ့ မြန်မြန်လိုက်"

"အုန်း...

နရင်းကို ပိတ်တီးခြင်း ခံလိုက်ရသော ကျော်ကျော် မူးနောက်သွား တော့သည်။ ကျော်ကျော်ကို တရွတ်တိုက်မပါရုံတစ်မည် ဆွဲခေါ်သွား ခြင်းကို ခံလိုက်ရတော့သည်။ ကျော်ကျော်တော့ ကံဆိုးထီးသွားရာ မိုးလိုက်လို့ရွာချေပြီး......

နောက်ဆုံးတော့ ကျော်ကျော် အပါအဝင် မျောက်လောင်းလေးအဖွဲ့မှ သုံးယောက်၊ တစ်ခြားလူလတ်ပိုင်းမှ နှစ်ယောက်နှင့်အတူ ခြောက်ယောက်

ပြန်ပေးဆွဲခြင်း ခံလိုက်ရတော့သည်။ ကျော်ကျော်တို့ အားလုံး၏ မျက်နှာကို အဝတ်တစ်ခုဆီနှင့် ဖုံးအုပ်ခြင်းကို ခံလိုက်ရတော့သည်။

> "မဆိုင်ရင် အသာနေ၊ မသေချင်ရင် ငြိမ်ငြိမ်နေကြ၊ ကျန်လူတွေ ခေါင်းငုံ့ထား၊ မင်းတို့တွေလည်း အသားမနာခံချင်ရင် အသာတကြည် လိုက်ခဲ့ကြနော်၊ အေးရှုန်းလို့ကတော့ အသေပဲ"

ကားပေါ် ရှိ ခရီးသည်တွေ အော်ငေါက်နေသလို ကျော်ကျော်တို့ ဖမ်းခေါ်လာသည့် ခြောက်ယောက်ကိုလည်း ငေါက်နေသည်။

ကျော်ကျော်အပါအဝင် ခြောက်ယောက်ကတော့ သူတို့ပြုသမျှ နုနေရသည်။ ကြောက်သည့်စိတ်ကတော့ ဝုန်းဒိုင်းကြဲနေသည်။ သူတို့အဖွဲ့ကို ကားပေါ်ကနေ အတင်းဆင်းခိုင်းပြီး ခေါ်ဆောင်သွားကြတော့သည်။ သူတို့တွေ ကားပေါ်ကနေ ဆင်းပြီးနောက် ဓားပြအဖွဲ့ကနေပြီး ခရီးသည်ကားကို ပြန်လည် ထွက်ခွာခိုင်းတော့သည်။

ခရီးသည်ကားကြီးပေါ် ပါသွားသူများကတော့ ကျော်ကျော်တို့အဖွဲ့ကို ကျေးဇူးတင်နေပေမည်။ ကျန်ခရီးသည်များကို ဘာမှမလုပ်ဘဲ ကျော်ကျော်နှင့်အတူ ခေါ်ဆောင်ခြင်းခံရသော မျောက်လောင်းလေးများသည်လည်း မည်သို့နေမည်မသိ ကျော်ကျော်ကတော့ ငိုချင်သည်မှာ ပြောမနေတော့နှင့်၊ ထိုအချိန်မှာ ကျော်ကျော် လွမ်းတာတွေလည်း မသိ

တော့ ခေါင်းထဲမှာ နှင်းနွဲ့လည်း မရှိတော့၊ ကံကြမ္မာသည် ကျော်ကျော် အား လှပစွာ မျက်လှည့်ပြလိုက်တော့သည်။

ကျော်ကျော်တို့အား ဓားပြအဖွဲ့မှ သူတို့ပါလာသည့် ကားပေါ်ကို အတင်း တက်စေသည်။ ကားပေါ်ရောက်တော့ စိမ်းရှင်ရှင် အနံ့နှင့်အတူ မေ့မျော သွားတော့သည်။

************************

# အခန်း(၂)

"အား...."

ကျော်ကျော် သတိရလာတော့ ခေါင်းက နောက်နေတုန်းပင် ကျော်ကျော် မျက်နှာကို ငုံ့ကြည့်နေသော မျောက်လောင်းလေး မျက်နှာကို အနီးကပ် တွေ့လိုက်ရသောကြောင့် လန့်ပြီး ထအော်မိလိုက်သည်။ ထိုမျောက် လောင်းလေးလည်း နောက်သို့လန့်ပြီး ကြောက်လန့်သွားသည်။

"မင်းက ဘယ်သူလဲ"

"မင်းတို့ကရော ဘယ်သူလဲ"

ဘေးကို လှည့်ပတ်ကြည့်လိုက်တော့ သူ၏ သူငယ်ချင်းနှစ်ယောက်လည်း အခန်းထောင့်လေးထဲမှာ ငုတ်တုတ်လေး စိတ်ပျက်စွာ ထိုင်နေကြသည်။

အခန်းက ဖြစ်သလိုဆောက်ထားသည်တော့ မဟုတ်ချေ၊ မြေအောက် ခန်းလို့ ထင်ရသော အခန်း ၁၀ ပေ ပတ်လည်တွင် သူတို့လေးယောက်လုံး ရှိနေကြသည်။ ကျန်သည့် နှစ်ယောက်တော့မတွေ့ပါ၊ အောက်မှာလည်း သံပန်တလင်းပေါ်မှာ အိပ်ရာခင်းတွေ ချထားသည်။

“ငါက ဝန်ကြီးတစ်ဦးရဲ့မြေး သူတို့ကတော့ ငါရဲ့သူငယ်ချင်းတွေ သူတို့အဖေတွေကလည်း သူဌေးတွေ ဘဏ်ပိုင်ကြတယ် ဒါကြောင့် ငါတို့ကို ပြန်ပေးဆွဲလာတာ”

“ဩော်...”

“ဒါနဲ့ မင်းအဖေကရော ဘယ်သူလဲ ဘာပိုင်သလဲ”

“ဘာမှပိုင်ဘူး ငါကဒီကမဟုတ်ဘူး မြန်မာက ဒီမှာ အလုပ်လာလုပ်တာ”

“အော် ဟုတ်သလား၊ ဒါဆို မင်းကို ဘာလို့ ခေါ်လာကြတာလဲ”

“ဘာ ဟုတ်လားလဲ မင်းကြောင့် ငါကဘာမှမဆိုင်ဘဲ ပါလာရတာ မင်းတို့ရှုပ်လို့လေ”

ထိုကောင်လေးသည် မျက်လုံးလေး ကလယ် ကလယ် လုပ်လိုက်ပြီး နောက်မှ သူ့ကို စိတ်မကောင်းသလို ကြည့်ပြီးနောက်၊

“အေးကွာ ငါ့ဘော်ဒါတွေက ငါအိပ်နေတုန်းမှာ စနောက်ပြီးမင်းရဲ့ ဖိနပ်ကြိုးနဲ့ချည်ထားတာ”

“မင်းတို့ကတော့စနေ အခုတော့ ငါကသေလူ ဖြစ်နေပြီး”

“စိတ်မပူပါနဲ့ကွာ ငါတို့ကို လာကယ်ရင် မင်းလည်း လွတ်ပါပြီး”

“ထင်လား....မင်းတို့ကိုလာမကယ်ခင် အရင်ဆုံး ငါသတ်ခံရမှာ”

“မင်းက ဘာဖြစ်လို့ အရင်သတ်ခံရမှာလဲ”

“ဘာဖြစ်လို့ ဟုတ်လား... မင်းတို့နိုင်ငံမှာ ဘာမှမရှိတဲ့ လူတစ်ယောက်ဆို သတ်လိုက်တာ ကြက်ကလေး ငှက်ကလေးတွေ သတ်သလိုပဲ အရမ်းလွယ်ကူကြလို့”

“အယ်..”

“ပြီးတော့မင်းတို့ အဘိုးတွေ လာကယ်ရအောင် အရင်ဆုံး စံပြနမူနာ အနေနဲ့ သတ်ပြမယ်ဆိုရင် ဘယ်သူဖြစ်မလဲ .....ပြော”

ကျော်ကျော် စကားကြောင့် ထိုမျောက်လောင်းလေ ဘာမှမပြော နိုင်တော့ပဲ ကျော်ကျော်ကို ကြည့်နေပါသည်။ ကျော်ကျော် စိတ်ပျက်စွာ စိတ်ဓာတ် ကျဆင်းသွားပြီး မျက်ရည်များ ဝဲတက်လာတော့သည်။ ဒီခရီးကိုထွက်လာခဲ့သော ကျော်ကျော် နှောင်တရလို့ မဆုံးတော့၊ ကျော်ကျော် ဒူးနှစ်လုံးကို လက်ဖြင့်ပိုက်ပြီး ခေါင်းငုံ့ကာ အသံတိတ် ငိုမိပါတော့သည်။ ရည်းစားနဲ့လဲပျက်ခဲ့ပြီ။ ခုလဲ ဘယ်ဆီရောက်နေမှန်း မသိသော နေရာတွင် မျှော်လင့်ချက်မဲ့ကာ ချုပ်ခံထားရပြန်ပြီ။

ကျော်ကျော် စိတ်ပျက်သွားသည့် အမူအယာကြောင့် ကျော်ကျော်ကို နှစ်သိမ့်ပေးရန် ထိုမျောက်လောင်းက ကျော်ကျော် ပခုံးကို လာဖက်သည်။

ကျော်ကျော် ပခုံးကို လာဖက်သော လက်နှစ်ဘက်ကို ပုတ်ထုတ်လိုက်သည်။

“ဘာမှအားမငယ်ပါနဲ့ သူငယ်ချင်းရယ် ငါမင်းကို ငါ့အသက်နဲ့ ကာကွယ်ပါ့မယ် ငါ့ကြောင့် မင်းပါလာရတာ ငါ့မှာ တာဝန်အကုန်ရှိပါတယ်”

ကျော်ကျော်မော့ကြည့်ပြီး ဘုကြည့် ကြည့်ပစ်လိုက်သည်။ လူကဖြင့် လူဖလံလေးနှင့် သူကများကာကွယ်မည်တဲ့၊ စကားကို စကားလိုမပြောဘူး စကော်လောက်ပြောနေသည်။ (စကော် = စကားကြီး စကားကျယ်)

“ငါနာမည် ဖာ့ဇလီ မင်းနာမည်ကရော”

“ကျော်ကျော်”

“ကော်ကော်”

“ဟာ အဲလိုမဟုတ်ဘူး ကျော်ကျော်”

“ကော်ကော်....”

ကျော်ကျော်နာမည်ကို ထိုသို့ပြန်ခေါ်နေသော ဖာ့ဇလီ ကိုကျော်ကျော် ကြည့်မရတော့၊ ထိုကြောင့် သံပန်တလင်ပေါ် ရှိ ဖုန်မှုန့်များမှာ လက်ဖြင့် ရေးပြလိုက်သည်။

**kyaw kyaw**

“အော်...ကြောင်ကြောင်”

“ဘာကွ အဲလိုမဟုတ်ဘူး ကျော်ကျော်...ကျော်ကျော်”

“သိဘူးကွာ ငါအဲ့ဒီလိုပဲခေါ်တတ်တယ် ကြောင်ကြောင်”

“ခေါ်ချင်သလိုခေါ်တော့ကွာ ဖားဇလီးရာ”

“ဖာ့ဇလီ ပါ”

“ဖားဇလီး သိဘူး ငါလည်းအဲလိုပဲခေါ်တတ်တယ် ဖားဇလီး”

“ပြီးရော သူတို့ က ဂျက်ဇီး နဲ့ ဟာရီ”

ကျော်ကျော် ခေါင်းညိမ့်ပြလိုက်ပါသည်။ သူတို့ကတော့ ကျော်ကျော်ကို စိတ်မသက်သာစွာ ပြန်ကြည့်ကြသည်။ ကျော်ကျော်မှာတော့ သူငယ်ချင်း ရခဲ့သည်။ အချိန်ကလည်း မကောင်းသောအချိန် ကံဆိုးချိန်တွင်တော့ မပျော်ရွှင်နိုင်ပါ။

ထိုသို့ပါပဲ ဂျက်နဲ့ ဟာရီ လည်းပျော်ရွှင်နေမည်မဟုတ်ချေ၊ ထိုအထဲတွင် တော့ ဖာ့ဇလီသာ တက်တက်ကြွကြွ ရှိနေပါသည်။

ဓားပြများသည် ကျော်ကျော် တို့အဖွဲ့ ကိုလာကြည့်လိုက် ပြန်သွားလိုက် နှင့် အခြေနေကို လာစောင့်ကြည့် နေပါတော့သည်။ နေလည်းမမြင် လလည်းမမြင်ရသော ကျော်ကျော်တို့မှာတော့ ညလား နေ့လားပင် မခွဲခြားတတ်တော့ချေ။ အချိန်နာရီကြည့်ရအောင်လည်း ကျော်ကျော်တို့ ကိုယ်ပေါ်မှာ ဘာမှမထား အားလုံးဖြုတ်ယူထားကြသည်။ (ဖုန်းတို့ နာရီတို့ ပြောပါသည်) အချိန် နေ့ည ဘယ်သို့ ပြောင်းရွှေ့သွားကြသည်ကို မသိ တော့ချေ။

ကျော်ကျော် ပိုက်စံအိတ်နှင့် ဖုန်းလည်း ပျောက်သွားတာလား၊ ဓားပြတွေ ယူသွားသလားတောင် မသိတော့ချေ။ ခုတော့ ဘာမှ မရှိတော့။

“ဂျက်ဇီး”

ဓားပြတစ်ယောက်၏ ခေါ်လိုက်သံကြောင့် သူတို့ခေါင်းထောင် ကြည့် လိုက် ကြသည်။

“ဂျက်ဇီး ထွက်ခဲ့”

“ဘာဖြစ်လို့ တစ်ယောက်တည်း ခေါ်တာလဲ”

“လျှာမရှည်နဲ့ ငါတို့ခေါ်တဲ့လူပဲ ထွက်ခဲ့”

ဖာ့ဇလီ မေးလိုက်သည်ကို ဓားပြတစ်ယောက်က ဝေါက်လိုက်သဖြင့် ညိမ်သွားပါတော့သည်။ ထူးဆန်းသည်က ထိုဓားပြများသည် ကျော်ကျော် တို့ ဆီလာသည့် အခါတိုင်းတွင်လည်း မျက်နှာကို မျက်နှာဖုံးများဖြင့် အုပ်ထား ကြပါသည်။

ဂျက်ထွက်သွားသည့် အခါမှာတော့ ကျော်ကျော် ဖာ့ဇလီနားကပ်ကာ

“ထူးဆန်းတယ်နော် သူတို့လာတိုင်း မျက်နှာဖုံးတွေ အုပ်ထား ကြတယ်”

“အေးဟုတ်တယ် မင်းဘယ်လို စဉ်းစားထားမိလဲ”

“ငါ့အထင်.... အင်း..ဓားပြမှန်းသိအောင် မျက်နှာဖုံး အုပ်ထားတာ ဖြစ်မယ်”

“သေလိုက်ပါလား... သူတို့ ဓားပြမှန်း အစကတည်းက သိပြီး သားပဲ”

“အင်း... ပြောမရဘူးလေ ဓားပြဆိုတာ မျက်နှာအုပ်ထား ကြတာပဲကိုး”

ကျော်ကျော်စကားကြောင့် ဖာ့ဇလီ တစ်ချက်ပြုံးလိုက်သည်။ တစ်နာရီ လောက်ကြာတော့ ဂျက်ပြန်ရောက်လာသည်။ အခန်းထဲဝင် ဝင်ခြင်း ဖာ့ဇလီ ဂျက်ဆီသွားလိုက်ကာ အလောတကြီးမေးလိုက်သည်။

"ဘာတွေမေးလိုက်လဲ"

ခွပ်....

ဖာ့ဇလီ ကို ဂျက် လက်သီးဖြင့် အဖြေပေးလိုက်တော့သည်။ ဖာ့ဇလီ ဖင်ထိုင်လျှက်လဲကျသွားတော့သည်။ ကျော်ကျော် နှင့် ဟာရီ ကတော့ ဂျက်ကိုနားမလည်သလို အံ့သြစွာကြည့်လိုက်မိတော့သည်။

"မင်းကြောင့် အားလုံးဖြစ်ရတာ မင်းကြောင့်"

"ငါဘာလုပ်လို့လဲ"

"ဘာလုပ်လို့လဲ ဟုတ်လား အိမ်ကိုအသိမပေးပဲ ခိုးပြီး ခရီးထွက်ရ အောင်လို့ စခဲ့တာလည်းမင်းပဲ ပြီးတော့ ကမရွှန်ဟိုက်လန်ကို သွားရအောင်လည်း မင်းပြောခဲ့တာလဲ မင်းပဲ"

"ဟုတ်တယ် အားလုံးမင်းကြောင့်ဖြစ်ရတာ"

ဟယ်ရီလည်း ဂျက်ဘက်ကနေပြီး ဝင်ပြောသည်။

“အားလုံးစိတ်တူ ကိုယ်တူ ထွက်ခဲ့ကြပြီးမှ ခုတော့ ငါ့ကို အပြစ်ပြောကြပြီလား၊ ဒီလိုဖြစ်မယ်မှန်းသိနေရင် ငါလည်း လာပါ့မလားကွ”

“မဟုတ်လို့လား...ခုအိမ်ကိုဖုန်းနဲ့ဆက်ပြီးပြောခိုင်းတယ် ပြီးတော့ သိန်း ၅၀၀ နဲ့လာရွေးခိုင်းတယ် ငါ့မိဘတွေ ငိုနေကြတယ်..မရွေးရင် ငါ့ကိုသတ်မယ်တဲ့..အီးဟီး..”

“ဒါဆိုငါ့အိမ်ကော ဖုန်းပြောခိုင်းတာလား”

ဟယ်ရီ မှာလဲ ကြောက်ရွံ့စွာ ဂျက်ကိုမေးလိုက်သည်။

“အဲဒါတော့မဟုတ်ဘူး ငါ့အိမ်ကိုပဲ ခေါ်ခိုင်းတာ”

ဟယ်ရီစိတ်ပျက်စွာ ထိုင်လိုက်သည်။ နောက်ဒေါသတကြီးဖြင့် ဖာ့ဇလီ ထံပြေးလာသည်ကို ကျော်ကျော်မြင်လိုက်တော့ ကျော်ကျော်ထပြီး ဟယ်ရီကို တွန်းလိုက်သဖြင့် ဖာ့ဇလီအား ကန်သည့် ကန်ချက် လွဲသွားတော့သည်။

“တော်တော့.....”

ကျော်ကျော် ဒေါသတကြီး အော်လိုက်သံကြောင့် သုံးယောက်သား ကျော်ကျော်အား ကြည့်ကြသည်။

"အဲဒီလိုပြောကြစတမ်း ဆိုရင် ငါဒီကိုပါလာတာ မင်းတို့ အားလုံးကြောင့်ပဲ အေး...ခုချိန်မှာ ရန်ဖြစ်ရမယ့် အချိန်လည်း မဟုတ်ဘူး မင်းတို့ တွေမိဘတွေကို ဘယ်လိုပြောကြမယ်ဆိုတာပဲ စဉ်းစားဖို့ လိုတယ်...မင်းတို့ကမှ လာကယ်မည့်သူ တွေရှိသေးတယ် ငါ့ကို ဘယ်သူက ဘယ်လောက်နဲ့ လာရွေးမှာလည်း စဉ်းစားမနေနဲ့ အဖြေက ရှင်းရှင်းလေး လာမရွေးလို့ သတ်မယ်ဆိုရင် ငါက ရှေ့ဆုံးကပဲ မင်းတို့တွေ ကသူငယ်ချင်း မဟုတ်ကြဘူးလား. ..သူငယ်ချင်းဆိုတာ ဆိုးကောင်း တိုင်ပင်ရတဲ့ ခင်မင်ရတဲ့ အရာကို ခေါ်တာ မင်းတို့ နိုင်ငံသားတွေက ဒီလိုပဲလား တစ်ယောက် အပြစ် တစ်ယောက်ရှာ နေကြတာလား ကဲပြောကြစမ်း မင်းတို့ဒီလို ရန်ဖြစ်နေတော့ရော လွတ်မှာတဲ့လား"

အားလုံး ညိမ်သွားတော့သည်။ ဂျက်နှင့် ဟယ်ရီလည်း မကျေနပ် ပေမယ့်လည်း ကျော်ကျော်စကားမှန်လို့ပဲလား တော့မသိဘဲ ဘာမှတော့ ဝင်မပြောကြတော့၊ ကျော်ကျော် ဖာ့ဇလီ ကိုတွဲထူလိုက်ပြီး အိပ်ယာခင်း ပေါ်သို့ လှဲစေလိုက်သည်။

"ကျေးဇူးပဲ ကြောင်ကြောင်"

ကျော်ကျော် က ဖာ့ဇလီကို ပြုံးပြလိုက်ပါသည်။ အပြုံးသည် မပီပြင်ပဲ မဲ့နေမည်ဆိုတာတော့ ကျော်ကျော် သိပါသည်။ ကျော်ကျော် စကားများ

ထွက်ကျသွားသည်က မရည်ရွယ်ထားပဲ ဖြစ်ပေါ်လာသော ရင်ထဲစကားပါပဲ၊ ကျော်ကျော် မြန်မာပြည်သားလေးပဲ မဟုတ်ပါလား.....

ကျော်ကျော်တစ်ယောက် ယခုအချိန်မှာ မည်သို့လွတ်လမ်းကို ရှာရမည်ကို ခေါင်းအေးအေးနှင့် စဉ်းစားရန် လိုအပ်နေသည်။ ဓားပြတွေရဲ့ အပြုအမူတွေက ထူးခြားသလိုခံစားနေရသည်။

နှစ်ရက်မြောက်နေ့တွင်တော့ ကျော်ကျော်မှာ အတွေးများ ရောကာ ခေါင်းများပင် နောက်နေသည်။၊ ခုလည်းကြည့်လေ ဟယ်ရီကိုလည်း ဂျက်ကဲ့သို့ပင် ဂျက်ကိုခေါ်ပြီး တစ်ရက်ကျော်လောက် အချိန်မှာ တစ်ယောက်တည်း ခေါ်ထုတ်သွားပြန်သည်။ ကျော်ကျော် စိတ်ထဲ သိပ်မသင်္ကာချင်တော့ပါ။

“သူတို့ဘာဖြစ်လို့ တစ်ယောက်ချင်း ခေါ်ထုတ်သွားကြတာလဲ”

“အင်းဟုတ်တယ်”

“မိဘတွေဆီ ဖုန်းဆက်ပြီး ခေါ် ခိုင်းတာပဲဖြစ်မယ် ဆိုခဲ့လျှင် ငါ့အလှည့်ကြရင် ငါဘယ်ကိုခေါ်ရမှာလည်း”

“မင်းအိမ် မင်းခေါ်ပေါ့”

"ဖြစ်မလားဟ ငါ့အိမ်က မြန်မာပြည်မှာ ဒီလောက်ချမ်းသာနေရင်လည်း ငါမင်းတို့နိုင်ငံကို လာစရာမှမလိုတာ"

ကျော်ကျော် စကားကြောင့် ဖာ့ဇလီမှာ ကျော်ကျော်ကို သနားသလိုကြည့်ရှာသည်။ ကျော်ကျော်အသံများလည်း အားငယ်သံပေါက်လို့နေပေမည်။ ဂျက်ကတော့ ကျော်ကျော်တို့ ပြောဆိုနေကြသည်ကို နားပင်မထောင်တော့၊ မကြားသလို ခွဲခြားစွာ နေသည်။

"ဟယ်ရီကို ခေါ်သွားတာ တော်တော်ကြာတယ်နော်"

"အင်းဟုတ်တယ် ခုထိပြန်မလာသေးဘူး ဒီကောင်ကိုများလွှတ်လိုက်ပြီလား မသိဘူး"

"မင်းကလည်း ဟုတ်နိုင်ပါ့မလား"

"ဖြစ်ချင်လည်း ဖြစ်နိုင်တယ်လေ သူ့မိဘတွေလာရွေးသွားတယ်ဆိုခဲ့ရင်ပေါ့"

ကျော်ကျော် စကားကြောင့် ဂျက်ဇီး စိတ်တိုရင်း ဒေါသတကြီး ဖြစ်ကာထလာသည်။

"အဲဒီလို လုပ်လို့ရမလားကွ"

ကျော်ကျော် နှင့် ဖာ့ဇလီ ကတော့ ဂျက်ကိုပြိုင်တူကြည့်လိုက်မိသည်။ .

"ဒီလိုမျိုး ဖြစ်သွားလို့ကတော့ သည်းကိုမခံဘူး အားလုံးကို သတ်ပစ်မယ် မင်းတို့လည်း စကားများမနေနဲ့ တိတ်တိတ်နေကြ"

ကျော်ကျော်မှာ ဖာ့ဇလီကို မျက်ရိပ်မျက်ကဲပြပြီး ဘာမှမပြောရန် တားလိုက်သည်။ စကားနည်း ရန်မများစေရန် အတွက်ပါ၊ သူတို့တွေ ရန်မဖြစ်ပဲနေတာ ပိုကောင်းမည်လေ။

အခန်းလေးသည် တိတ်ဆိတ်လို့ သွားတော့သည်။ ဂျက်၏အသက် ရှူးသံ ပြင်းပြင်းကလွဲရင် တိတ်ဆိတ် နေတော့သည်။

တော်တော်ကြာမှ ဟယ်ရီကို ထမ်းက ပြန်လာပို့ကြတော့ သူတို့အားလုံး စိုးရိမ်တစ်ကြီး ဟယ်ရီအနား ကပ်သွားလိုက်သည်။ ဟယ်ရီကတော့ မျက်နှာ ဖြူဖတ်ဖြူလျော်နှင့် ပြန်ရောက်လာသည်။ တစ်ခုခုကို ကြောက်နေသလိုမျိုးပင်၊

"ဟယ်ရီ သူငယ်ချင်း၊ သူငယ်ချင်း ဘာဖြစ်လာတာလဲ မင်းကိုသူတို့ ဘာလုပ်လိုက်လို့လဲ"

ဟယ်ရီဆီမှ ဘာအဖြေမှပြန်မထွက်လာ စွံ့အသလို မျက်လုံးကလည်း ကြောင်တောင်တောင်နှင့် သူတို့ကို ကြည့်နေသည်။ ဖာ့ဇလီ၏ မေးသံကိုလည်း မကြားသလိုဖြင့် ကြည့်နေပါသည်။ ဂျက်က စိတ်မရှည်တော့

"ဟော့ကောင် ဟယ်ရီ မင်းငါတို့ ကိုခြောက်နေတာလား"

"ဂျက်...မင်းအရမ်းမလုပ်နဲ့ သူတစ်ခုခုဖြစ်လာလို့ နေမှာပေါ့"

"တော်စမ်း ဖာ့ဇလီ မင်းကို မကျေနပ်သေးဘူး မင်းဘာမှ ဝင်မပြောနဲ့"

"မပြောလို့ ရမလားကွ မင်းလုပ်နေတာတွေ တစ်ခုမှ မဟုတ်လို့ မနေ့က ငါသည်းခံလိုက်ပေမယ့် ဒီနေ့တော့ မရဘူးနော်"

"တော်ကြစမ်းပါ မင်းတို့ကလည်း ဟယ်ရီကို တစ်ခုခု လုပ်ပေးကြအုံး ဘေးဖယ်ကြ ငါ့ဖာသာ လုပ်မယ်"

ကျော်ကျော် သူတို့ကြားမှာ ဆရာကြီး ပုံစမ်းဖြင့် ပြောဆိုလိုက်ပြီး ဟယ်ရီအနား ဝင်ထိုင်ရုံတင်ရှိသေးသည် ဖာ့ဇလီ ကိုဒမြများ ခေါ်ထုတ်သွားကြ ပြန်ပါတော့သည်။

"ဖာ့ဇလီ ထွက်ခဲ့"

“မထွက်ဘူး ဒီမှာ ငါ့သူငယ်ချင်း ဘာဖြစ်နေတယ်ဆိုတာ မသိသေးဘူး”

“ထွက်ခဲ့ အခု...အေး မင်းတို့ အားလုံးမသေချင်ရင် အေးအေးဆေးဆေး လိုက်ခဲ့”

ဖာဇလီမှာ မထွက်သွားချင်သော်လည်း ခေါ်ထုတ်သွားခြင်းကို ခံလိုက်ရတော့သည်။

ဟယ်ရီကိုဘယ်လိုပင် ချော့မေးမေး ဘာမှထွက်မလာတော့၊ မျက်ရည်များသာ ကျနေသည်။ ကြောက်တယ်ဆိုသည့် စကားတစ်ခွန်း နှစ်ခွန်းသာ ထွက်လာတော့သည်။

“ကြောက်တယ် အီးဟီး...ကြောက်တယ်”

တစ်နာရီကျော်ကျော် လောက်ကြာတော့ ဓားပြအဖွဲ့များ သူတို့အားလုံးကို ခေါ်ထုတ်သွားကြသည်။ ဖာ့ဇလီကတော့ ဘယ်ရောက်နေသည်မသိ၊ အပြင်ကို မထွက်ခင် မျက်နှာများကို အဝတ်များဖြင့် အုပ်ကာ ခေါ်သွားတော့သည်။

အုန်း........

ကျော်ကျော်၏ မျက်နှာဖုန်းကို ချွတ်ပေးပြီး နောက်ကျောကို ဆောင့်တွန်းခြင်းကို ခံလိုက်ရ၍ ရှေ့သို့ ဟပ်ထိုး လဲကျသွားတော့သည်။ ကျော်ကျော် ကြောက်လန့်တကြား ဘေးပတ်ဝန်းကျင်ကို ကြည့်လိုက်တော့ သံတိုင်များဖြင့် ပြုလုပ်ထားသော အချုပ်ခန်း အသေးစားထဲတွင် ရောက်လို့နေသည်။ အချုပ်ခန်းက ဆီးအုန်းတောထဲမှာ ခုမှ ဆောက်လုပ်ထားသည့် ပုံစံ ပေါက်နေပါသည်။ ကျော်ကျော် တစ်ယောက်တည်းပါ၊ ကျန်သည့်လူများတော့ ဘယ်ရောက်ကုန်ပြီးလည်း မသိတော့၊ အရင်အချိန်တုန်းက ဘာတွေဖြစ်ဖြစ် ဘေးမှာအဖော်ရှိသေးတော့ သူ့အနေနဲ့ အားရှိပါသေးသည်။ ခုတော့ တစ်ယောက်မှ မတွေ့ပါ၊ အပြင်မှာတော့ ဓားပြအဖွဲ့များ ဟိုးဒီ သွားလာနေတာတော့ မြင်တွေ့နေရသည်။

ဘေးပတ်ဝန်းကျင်ကို လေ့လာကြည့်တော့ သူ့အချုပ်ခန်းနှင့် ခပ်လှမ်းလှမ်းရှိ ကိုက် ၁၀၀ လောက်တွင်တော့ အိမ်ကြီးတစ်လုံး ရှိနေပါသည်။ အိမ်ကြီးက ဆောက်လုပ်ထားသည့် ပုံစံက မကြာသခင်က ဆောက်ထားသည့် အသစ်ပုံစံ ဖြစ်နေသည်။ ခိုင်ခိုင်ထည်ထည် ဆောက်လုပ်ထားသည့် ပုံစံပါပဲ။ ကျော်ကျော် ရင်ထဲမှာ အားငယ်စိတ်တွေက ကြီးစိုးလာတော့သည်။ အိမ်ကိုလည်းလွမ်းလာသည်။ အမေ၊ အဖေနှင့် ကြီးမေ တို့ကို သတိရလွမ်းလာသည်။ မျက်ရည်များလည်း ကျလာပါတော့သည်။

“သား လွမ်းလှပြီးဗျာ”

ကျော်ကျော်မှာတော့ စိတ်များပင် ဟိုးအောက်ဆုံးထိကို ထိုးကျသွား တော့သည်။ ဒူးနှစ်ဖက်ကိုကွေး လက်ကိုတင်ပြီး မျက်နာအုပ်ကာ မျက်ရည်များ တိတ်တဆိတ်ကျနေမိသည်။ အိမ်ကို လွမ်းသည့်စိတ်နှင့် စိတ်ဓါတ်ကျမှုပေါင်းပြီး ဘယ်အချိန် အိပ်ပျော်သွားသည်မသိချေ၊ မိမိ ဘေးသို့ လူတစ်ယောက်လာထိုင်တော့မှ နိုးလာကာ ထကြည့်လိုက် မိသည်။

"ဟာ ..ဖားဇလီး..မင်းဘာမှမဖြစ်ဘူးနော်"

"အင်း ငါကတော့ ဘာမှမဖြစ်ဘူး"

"ဒါဆို..."

"ဟုတ်တယ် ဂျက်ကိုတော့ ပြန်လွှတ်လိုက်ပြီး ဟယ်ရီကိုလည်း ဆေးရုံးပို့လိုက်ပြီး ထင်တယ်"

"မင်းစိတ်တွေ အားငယ်နေတာလား သူတို့ ကရော ဘာဖြစ်လို့လဲ"

"အင်း ဂျက်ကို သူတို့ပြောတဲ့အတိုင်း ငွေနဲ့လဲလိုက်တယ် ပြီးတော့ ဟယ်ရီ ကိုလည်းလွှတ်လိုက်တယ်"

"မင်း ကြတော့ရော"

"ငါက သေလူလေ"

“ဟာ..မဟုတ်တာ”

“ဟုတ်တယ် သူတို့တောင်းဆိုတာက ငါ့အဘိုးကိုပဲ ဝန်ကြီးရာထူးက ထွက်ခိုင်း တယ်လေ”

“ဘယ်လို”

“ဟုတ်တယ် နိုင်ငံတော် တစ်ခုလုံးအတွက်နဲ့ ယှဉ်ရင် ငါ့အသက်က ဘာဖြစ်မှာလဲ ကြောင်ကြောင်ရာ”

“မဟုတ်သေးပါဘူး”

“အင်း..ငါလည်း အဲလောက် တန်းဘိုးရှိမှန်း ငါ့ကိုယ်ငါတောင် မသိဘူး”

ဖာ့ဇလီ မျက်ရည်များ ကျလာတော့သည်။ ဖာ့ဇလီ ကိုကျော်ကျော် ဖက်ကာနှစ်သိမ့်လိုက်မိသည်။

“အားမငယ်ပါနဲ့ကွာ မင်းဘေးမှာ ငါရှိသေးတာပဲ”

“မင်းကိုလည်း မနက်ဖြန်ဆို ပြန်လွှတ်ကြတော့မယ် ငါတောင်းဆို ထားတာပါ”

“ဘယ်လို”

"ဟုတ်တယ် ကြောင်ကြောင် ငါ့ကြောင့်တော့ နောက်ထက် လူတွေ အသက်မသေစေချင်ဘူးလေ"

"မင်းပြောတာတွေ ငါနားမလည်ဘူး၊ နောက်ထက်ဆိုတော့ အရင်က သတ်လိုက်လို့လား၊ သေခြားရှင်းပြပါလား"

"ဟယ်ရီဘာကြောင့် ကြောက်သွားတာလဲ သိလား"

ကျော်ကျော် ခေါင်းခါးပြလိုက်သည်။

"ဟင့်အင်း"

"သူ့ကို ဖုန်းဆက်ခိုင်းတဲ့အချိန်မှာ ဟယ်ရီကို ဗွီဒီယိုပါ ရိုက်ထားတယ် အဲ့ဒီအချိန်မှာ တိုက်ရိုက် သူတို့ လူကြီးတွေနဲ့ (ဝန်ကြီး) စကားပြောကြတယ် သူတို့တောင်းဆိုတာမပေးရင်း အားလုံးကို သတ်ပစ်မယ်လို့ ချိမ်းခြောက်ကြတယ် စံနမူနာအနေနဲ့ပဲ ငါတို့နဲ့ တူတူ ဖမ်းလာတဲ့ ဟိုလူနှစ်ယောက်ထဲက တစ်ယောက်ကို သေနတ်နဲ့ နားထင်ကို ပစ်ပြီး သတ်ပြစ် လိုက်တယ်လေ"

"ဟင်"

"အဲ့ဒီလို ဟယ်ရီရှေ့မှာ ဖြစ်သွားတော့ သူလန့်သွားတာ၊ အဲ့ဒါကြောင့် သူကြောက်ပြီး လန့်ဖျားတော့ တက်သလိုလို

တွေဖြစ်ပြီး သူ့ကို ဆေးရုံပို့ဖို့ ခေါ်သွားတော့တယ်၊ အဲဒီလိုတွေနဲ့ပဲ ငါ့ကိုမြင်ချင်တယ်ဆိုတဲ့ ငါ့အဘိုးကြောင့် ငါ့ကိုခေါ်ထုတ်သွားတဲ့ အချိန်မှာပဲ မင်းကိုလည်း စခန်းပြောင်း လိုက်ကြတယ်လေ၊ ပြီးတော့ ဂျက်အဖေဆီက ငွေရပြီးဆိုတာနဲ့ ပြန်လွှတ်လိုက်တယ်၊ သူတို့က လူလည်တွေပဲ သိတာပေါ့ကွာ ငါ့တို့အဘိုးဘက် ရဲတွေ လိုက်လာမယ်ဆိုတာကိုလေ၊ ဒါကြောင့် ငါတို့တွေကို ဒီနေရာကို ပြောင်းခေါ်လာခဲ့တာ"

"အော်..ဒါကြောင့် သူတို့ နေရာရွှေ့လိုက်ကြတာကိုး"

"အင်း ငါ့ကိုပြပြီး တောင်းဆိုနေတဲ့အရာက မဖြစ်နိုင်တာကို သူတို့တောင်းဆိုလိုက်ကြတယ် အချိန်မပေးဘူးတဲ့ နောက်နေ့ မနက်မှာပဲ လိုချင်တယ်တဲ့လေ ဒါမျိုးဆိုတာ ဖြစ်နိုင်ပါ့မလား ကြောင်ကြောင်ရယ် ငါလည်း ငါ့ကြောင့် မင်းတစ်ခုခု မဖြစ်စေဘို့ တောင်းဆိုခဲ့ရတယ် မင်းကိုပြန်လွှတ်ပေးဘို့ပေါ့ မဖြစ်နိုင်ဘူးလို့ တော့မဟုတ်ဘူးပေါ့ လက်လှမ်းမှီရာလေး လုပ်ကြည့်တာပါ"

ဖာ့ဇလီ စကားကြောင့်သာ ကျော်ကျော်မှာ စိတ်ဝေကျရာကနေ သက်သာလာပေမယ့် ဖာ့ဇလီအတွက်တော့ စိတ်မကောင်းဖြစ်သည်။ လူဆိုတာ အရေးရယ် အကြောင်းရှိလာပြီးဆိုရင် စိုးရိမ်မှုက မိမိကိုယ်ကို

ပိုပြီး ချစ်တတ်တော့ ကျော်ကျော်တစ်ယောက် ထိုခံစားချက်ကို ရရှိခြင်း ဖြစ်ပေမည်။ ကျော်ကျော် ဘာလုပ်ရမည်နည်း။

"ကျေးဇူးတင်ပါတယ်ကွာ"

"ရပါတယ် မင်းကို နောက်ဆုံးအနေနဲ့သူငယ်ချင်း အဖြစ် ခင်လိုက်ရလို့ ငါဝမ်းသာပါတယ်"

"မဟုတ်တာကွာ နောက်ဆုံးလို့တော့ မပြောပါနဲ့"

ဖာ့ဇလီ ခပ်ယဲ့ယဲ့လေးပြုံးလိုက်သည်။

"ခဏနေရင်ငါ့ကို ပြန်ခေါ်သွားတော့မှာ"

"ဘယ်ကိုခေါ်သွားမှာလဲ"

"ဟိုးအိမ်ကြီးထဲကိုပေါ့"

"ဟင်"

"ဟုတ်တယ် ငါမင်းနဲ့တွေ့ချင်လို့ တောင်းဆိုလိုက်တာ ခဏလာတာ အချိန် တစ်နာရီလောက်ပဲရမယ် ကြောင်ကြောင်၊ အိမ်ကြီးရဲ့ အောက်မှာ မြေအောက်ခန်းလိုမျိုး စတိုးလိုမျိုးရှိတယ် သူတို့က သေခြာ ဆောက်ထားတာ အဲဒီထဲမှာ ငါ့ကိုထားတယ် အိမ်ကြီး ကတော့ နည်းနည်းကျယ်တယ်ပြောရမယ်""

“ငါ့ကို ဘာလို့ ခွဲထားတာလဲ”

ဖာ့ဇလီ ပြန်မဖြေပါ သူ့မျက်ဝန်းများကတော့ အားမရှိတော့သည့် ကလေးငယ်လိုပင် ဖြစ်နေတော့သည်။

“မင်းကို ငါရအောင်ကယ်မှာပါ ဘာမှစိတ်မပူနဲ့”

ဖာ့ဇလီ ယဲ့ယဲ့လေ သာပြုံးရှားသည်။

“မဟုတ်ပါဘူး ဖားဇလီးရာ စိတ်မပျက်ပါနဲ့ကွာ မင်းအဘိုးက လူကြီးပဲ သူတို့ ဒီအတိုင်းတော့ ကြည့်နေမှာ မဟုတ်ဘူးလေ အားလုံးလှုပ်ရှားနေကြမယ် ဆိုတာငါယုံကြည်ပါတယ် မင်းသာ စိတ်ဓာတ်ကျမသွားနဲ့ တင်းထား သိလား”

ကျော်ကျော်မှာ တတ်နိုင်သလောက်သာ အားပေးစကား ပြောရသော်လည်း သူတို့ဘာတွေ လုပ်နေလည်းဆိုတာကိုတော့ အမှန်တစ်ကယ် ကျော်ကျော် မသိပါ၊ မိမိရဲ့စဉ်းစားသမျှ ထွက်လာတဲ့ စကားလေးသာ ဖြေဖျောက်ပေး နိုင်ပါသည်။

“ဂျက်တို့ ကောင်းကောင်းရောက်ရဲ့လား မသိဘူးနော်”

“ရောက်မှာပါ သူတို့တောင်းတဲ့ ပိုက်စံလည်း ရပြီးပဲလေ”

ဖာ့ဇလီ နှင့်ကျော်ကျော် စကားများပြောဆိုနေကြသည်။ ကျော်ကျော် ကတော့ သိချင်သည်များကို မေးနေရသော်လည်း ဖာ့ဇလီ ကတော့ ကျော်ကျော် မေးသမျှကို ဖြေရှင်းပေးရှာပါသည်။

သူတို့ နှစ်ယောက် စကားပြောနေကြတုံး အနားသို့ ဓားပြ ၈ ယောက် လောက် ရောက်လာသည်။

ထူးဆန်းသည်က အားလုံး မျက်နာဖုံးများဖြင့် လာကြခြင်းပင် ဖြစ်သည်။ ခေါင်းဆောင် ဖြစ်ဟန်တူသည်ကတော့ ကျော်ကျော်တို့ကို တစ်ချက် ကြည့်ပြီး

"သူတို့ကို တစ်နာရီလောက်ထိ အချိန်ပေးလိုက် ပြီးရင် ဟိုကလေး ကို ပြန်ခေါ်သွားလိုက်တော့"

"ဟုတ်ကဲ့"

ကျော်ကျော် တစ်ချက်ကြည့်လိုက်တော့ ခေါင်းဆောင်လုပ်သူသည် ထူးဆန်းစွာ ခပ်ကြာကြာ တစ်ချက်စိုက် ကြည့်ပြီး ထွက်သွားတော့သည်။ ကျော်ကျော် စဉ်းစားမိသည်က ဘာဖြစ်လို့ ဒီလိုမျက်နာဖုံးတွေ ဝတ်ထားကြသနည်း။ ဝတ်ထားစရာ အကြောင်းလည်း မရှိပါဘူးလေ။ ခဏကြာတော့ သူတို့ကို ဆရာလုပ်သောသူ ခေါင်းဆောင်က သူ့၏ တပည့်များကို မှာစရာစကားများပြောနေပုံက တစ်နေရာကို ထွက်သွားရန်

ပြင်ဆင် နေသည့်ဖြစ်သည်။ ဓားပြများ ထွက်သွားကြတော့မှ ဖာ့ဇလီ ကိုကြည့်လိုက်တော့ အပြင်က တောအုပ်ကလေးကို အငေးသာ ငေးနေ သည်ကို ဝမ်းနည်းဖွယ်ရာ တွေ့နေရသည်။

"ဘာတွေ စဉ်းစားနေတာလဲ"

"ဘာရယ် မဟုတ်ပါဘူး ဒီအချိန်လေးကို ခဏတာ ဆွဲထားလို့ရရင် ကောင်းမှာလို့ စဉ်းစားနေတာပါ"

ကျော်ကျော် ဘာပြောရမှန်းမသိတော့ သူနှင့် ဖာ့ဇလီသည် ခင်မင်ရင်းနှီး သည်လို့ ပြောရအောင်လည်း တွေ့ရတဲ့ရက်ကလည်း မကြာသေးပါ၊ နာရီ တော်တော်များများတော့ စကားများ ပြောဖြစ်သည်ကလွဲလို့ ခင်မင် ရင်းနှီးသော ငယ်ပေါင်းကြီးဖော်တွေလိုတော့ အရမ်းမခင်မိပါ၊ သို့ပေမယ့် ဒုက္ခရောက်တာခြင်း တူနေလို့သာ သူတို့ခင်မင်သွားသည့် အချိန်တစ်ခု အတိုင်းတာပါပဲလေ။

တစ်နာရီလောက်ကြာတော့ ဖာ့ဇလီကို ခေါ်သွားတော့သည်။ ညလည်း မိုးချုပ်စ ပြုနေပါပြီ၊ ကျော်ကျော် တစ်ယောက်တည်း ကျန်ခဲ့သည့် အချိန်မှာတော့ စိတ်ပျက်အားငယ်စွာ ချောင်လေးထဲမှာ ကွေးလို့နေလိုက် ပါသည်။ ဘာတတ်နိုင်မည်နည်း အဆုံးတော့ အိပ်ရန်သာဖြစ်တော့သည် မဟုတ်လား။

မိမိဘေးနားမှာတော့ အစောင့်တစ်ယောက်ရှိနေပါသည်။ သူသည် အရက်သေစာ သောက်နေပုံရပါသည်။ ထိုအစောင့်ထံသို့ အိမ်ထဲမှ လူတစ်ယောက် လျှောက်လာတာတွေ့လိုက်ပါသည်။ ကျော်ကျော် မျက်စိကို အသာမှိတ်ချင်ယောင်ဆောင်ကာ အိပ်နေပါသည်။

"ဟေ့ကောင် ဘာလို့ ဒီကိုလာတာလဲ ဟိုမှာ သွားစောင့်နေတာ မဟုတ်ဘဲနဲ့"

"ဟာကွာ တစ်ယောက်တည်း ပျင်းစရာ ကောင်းပါတယ် ငါလဲသောက်ချင်လို့ လာတာ၊ ရှိသေလား"

"မင်းကလည်း ပေါ့လျော့လိုက်တာ"

"ဟာကွာ ဒီကလေးနှစ်ယောက်နဲ့ ဟိုတစ်ယောက်ပဲရှိတာပဲ ဘာမှ မဖြစ်လောက်ပါဘူး"

"အင်း ဟုတ်ပါတယ်လေ ဒါနဲ့သူတို့ကို ဘယ်လို စီစဉ်ထားလဲဆိုတာ သိရင်ငါ့ပြောပြအုံး၊ ငါလည်း သိချင်လို့"

"ဟိုကလေး အိပ်နေပြီးလား"

ကျော်ကျော် ကိုပြောခြင်း ဖြစ်ပေမည်၊ ထိုကြောင့် ကျော်ကျော် မျက်စိမှိတ်ထားလိုက်ပါသည်။ ခါတ်မီးနှင့် မျက်နှာကိုထိုး သော အလင်းတန်းကို ခံစားသိလိုက်သည်။

"အင်း အိပ်နေလောက်ပြီး"

"သူတို့ကိုကြည့်ရတာ သနားစရာတော့ ကောင်းတယ်နော်"

"ဘယ်တတ်နိုင်မလဲကွာ အကြောင်းက တိုက်ဆိုင်လာတာကိုး"

"မတတ်နိုင်ဘူးလေ သူ့ဆန်စားမှ တော့ ရဲရတော့မှာပေါ့"

"အင်း မင်းဘယ်လိုထင်လဲ သူတို့ တွေကို ဘယ်လိုလုပ်မလဲဆိုတာ"

"ရှင်းနေတာပဲကွာ လမ်းကိုဖြောင့်ချင်ရင်တော့ လမ်းရှင်းရမှာ ပဲလေ"

"မင်းဆိုလိုတာက သူတို့ကို အပျောက်ရှင်းမယ်ဆိုလိုတာလား"

"အင်း ၇၅% သေခြားတယ် ဘာကြောင့်လည်း ဆိုတော့ ဆရာကြီး မှာထားတယ်လေ မနက် ၉ နာရီလောက်ဆို အချက်ပေးတာနဲ့ ချတော့တဲ့"

“အင်း ဟုတ်တယ်ကွာ ငါ သနားတော့သနားတယ် ဒါပေမယ့် သနားလို့လည်း မရဘူးလေ သူတို့ထက် ငါတို့တွေလည်း အရေးကြီးတာပဲ မဟုတ်လား”

“အင်း ငါလည်း တိုးမိတဲ့လမ်းကို ဆက်လျှောက်နေရတာပဲ စိတ်ကတော့ အိမ်ကို အရမ်းလွမ်းတာပဲကွာ”

“တော်ပြီးကွာ ဘာမှပြောမနေနဲ့ သောက်တာပဲကောင်းတယ်”

“ဒါနဲ့ မင်းဆရာကြီးက ဒီလောက်ပိုက်ဆံရှိနေတာကို ဒီအလုပ်ကို လုပ်ရသလဲ မသိဘူး”

“ဒီလိုပေါ့ကွာ ကျားကြီးတော့ ခြေရာကြီးတယ် ဆိုရမှာပဲ၊ လောဘ တက်မက်မှုက လောဘကြောင့် လုပ်ရတယ် ဆိုတာလဲ ပါမှာပေါ့”

“အင်းပေါ့ ဆရာကြီး ကောင်းစားရင် သူ့အနားက ငါတို့လည်း ကောင်းစားကြတာပေါ့”

“ဒါပေါ့”

ကျော်ကျော် နားထောင်ရင်းဖြင့် ခေါင်းမွေးများပင် ထောင်သွားတော့သည်။ မိမိသေရတော့မည်ဆိုသည့် အသိဝင်လာသည်။ ချွေးများပင်ပျံလာတော့သည်။ ဘာလုပ်ရမည်နည်း၊ မိမိသည် စွန့်စားရသည့်အလုပ်ကို

တစ်ခါမျှ မလုပ်ဘူးပါ၊ လုပ်ရအောင်လည်း ဘာမှလည်း သင်မြောက်တတ်ကျွမ်းထားသည့်လူမဟုတ်ချေ၊ မိမိဘာလုပ်ရမည်နည်း။ မိမိလည်း လူတစ်ယောက်ပင် ဖြစ်ပေကာ သေရမည်ကိုကြောက်ပါသည်။

ထိုသေလမ်းသည် မနက်ဖြန် မိုးသောက်တာနှင့် ရှေ့တည့်တည့်သို့ ရောက်လာတော့မည်။ အရက်သောက်ပြီး နောက်တစ်ယောက်က အိမ်မကြီးဆီကို ပြန်သွားသည်ကို သတိထားမိလိုက်သည်။ ကျော်ကျော် အခြေအနေကို သုံးသပ်ကြည့်လိုက်တော့ ညနေက ဓားပြအဖွဲ့မှ အကုန်နီးပါး အပြင်ထွက်သွားကြပုံရသည်။ ကျန်ခဲ့သူကတော့ ဒီနှစ်ယောက်သာ ဖြစ်ပေမည်။ ပုံစံတွေကြည့်ရတာ ဇိုးသမားတွေ ဖြစ်ပုံရသည်။ အရက်သောက်တာ မူးတဲ့ လက္ခဏာလည်း မပြကြဘူး။

ကျော်ကျော် ရှိသည့် တံခါးရဲ့ တောင်ဘက်အခြမ်းမှာ မိမိကိုစောင့်နေသည့် လူတစ်ယောက်ရှိနေရာက လွဲလို့အားလုံးတိတ်ဆိတ်နေသည်။ ဒီအချိန်မှာ သူတွေးတော ရတော့မည်။ ဖြစ်နိုင်ချေရှိသည့် အရာကို စဉ်းစားရတော့မည်။ လူတစ်ယောက်အနေနဲ့ သေရတော့မည်ဟု ကြိုတင် သိရှိချိန်တွင်တော့ ငြိမ်သက်စွာ ထိုင်မနေနိုင်တော့ချေ။ သူ့အနေနဲ့ လွတ်ရာလွတ်ကြောင်းဖြစ်ဖြစ် ကောက်ရိုးတစ်မျှင်ပဲရရ သူ့အတွက်တော့ လက်လှမ်းမီရာ လုပ်ရတော့မည်လေ။

အခြေအနေကို သေချာလေ့လာကြည့်လိုက်တော့၊ သူတို့ကို စောင့်ကြည့်နေသူ တွေကလည်း အထင်သေးစွာ၊ ပေါ့လျော့စွာ စောင့်ကြည့် နေကြသည်ဟု ထင်မိသည်။ ခွေးတက်ကလေးတွေဘာမှမတတ်ပါဘူး သတ္တိ မရှိလောက်ပါဘူး၊ မလုပ်ရဲလောက်ပါဘူးဆိုသော အတွေးမျိုးများ ရှိနေနိုင်သည်။

ထိုအချက်သည် သူ့အတွက်တော့ အခွင့်ရေးတစ်ခုပင် မဟုတ်လား။ တံခါးဘောင်နားကို တိုးကပ်ကြည့်လိုက်တော့ အစောင့်ကတော့ အိပ်မောကျနေပြီး မနက် ၂ နာရီအချိန်ဖြစ်မည်။ ဒီအချိန်ဆိုတာ လူတွေ အိပ်ကောင်းချိန်၊ ထိုအချိန်ကိုပဲ သူစ လှုပ်ရှားရတော့မည်။ နာရီမရှိသော သူ့အတွက်တော့ ခုနှစ်စဉ်ကြယ်အမှီထောင်ချိန်သာ စောင့်ကြည့် ရတော့မည်လေ။

ကျော်ကျော် တံခါးကြားမှ လက်ကိုလျှိုကာ တံခါးအားချည်ထားသည့် သံကြိုးကို လှုပ်လျှင် အသံမမြည်စေရန် အသာမ၍ လူတစ်ကိုယ်စာ လွတ်မြောက်ရန် အတွက် အချုပ်တိုင် အောက်က မြေကြီးကို အသာယှက်ထုတ်ရသည်။ ကြိုးကိုမပြီး လွတ်ရန် ကြိုးစားသော်လည်း အလွယ်တစ်ကူမရရှိပါ။ ကြိုးကို အသံမမြည်အောင်လည်း လုပ်နေရပါသည်။

တံခါးဘောင်ခြေက မြေကြီးကမွနေသဖြင့် လက်ကိုယက်ကာ အမြန်လုပ်ဆောင်နေရသည်။ သူ့အတွက်တော့ အချိန်သည် အရမ်း တန်ဖိုးရှိ

သည့်အချိန်ပင် ရရှိသည့် အခွင့်ရေးသည် နာရီပိုင်မျှသာ ဖြစ်ပေမည်။ မိနစ်တိုင်း စက္ကန့်တိုင်းက တန်းဖိုးရှိနေသည်။ ကျေးဇူးပြုပြီး မိုးနတ်မင်းများ ကူညီကြပါလို့ ပေါင်ချိန်ဇာတ်လမ်းထဲကလို တောင်းဆိုရတော့မည်။

တံခါး၏ အောက်ခြေက အခြေအနေက ကျော်ကျော်၏ တစ်ကိုယ်စာ လွတ်မြောက်သည့် အချိန်ရောက်သည့်နှင့် စဉ်းစားမနေတော့ပဲ တိုးလို့ ထွက်ခဲ့လိုက်တော့သည်။ တံခါးဘောင်ကြားက သံကြိုးက အသံနည်းနည်း ထွက်သွား၍ ကျော်ကျော်မှာ ထိတ်သွားသေသည်။ ထိုနောက် ဆီးအုန်းတော ထဲသို့ အသာကိုယ်ဖော့၍ ပြေးခဲ့တော့သည်။

ပြေးနေရင်းက ကျော်ကျော် ခြေလှမ်းများ တန့်သွားသည်။ ကျော်ကျော် အစပထမဦးဆုံးမှာ မိမိ လွတ်မြောက် ရန်သာ ကြိုးစားခဲ့သည်။ ထိုကြံစည်း မိသည့် အထဲတွင် ဖာ့ဇလီအတွက် ထည့်မစဉ်းစားမိပါ။ ခုတော့ သူ လူမပီသဘဲ တစ်ကိုယ်ဆန်စွာ ဖာ့ဇလီကို ထားသွားတော့မည်လား၊ ဖာ့ဇလီကတော့ သူ့အသက်ကို စိုးရိမ်လို့ မသတ်ရန် တောင်းဆိုပေးသေသည်။ သူကတော့ ဖာ့ဇလီအတွက်ကို ဘာမှ လှည့်မကြည့်ဘဲ တစ်ကိုယ်ကောင် ဆန်စွာ လုပ်ဆောင်ခဲ့သည်။

ကျော်ကျော်လည်း ခေါင်းခါကာ ဖာ့ဇလီကို ပြန်ကယ်ရန်အတွက် စဉ်းစားကာ နေရသည်။ ...နောက်ပြန်လှည့်ကာ အိမ်ကြီး ဆီသို့ သွားပြီးကယ်ထုတ်ရမည်လား...

သူသည် ကိုယ်ခံပညာလည်း မတတ်မြောက်ထားပါ၊ သို့သော် စိတ်ထဲမှာတော့ တစ်ကိုယ်ကောင်းဆန် လွတ်မြောက်သွားမည်ကိုတော့ လက်မခံချင်၊ နောက်ဆုံးတော့ အနောက်သို့ပြန်လှည့်လာပြီး မိမိကို ထားသည့်ဘက်သို့ ပြန်လှည့်လာလိုက်သည်။ မိမိကို စောင့်နေသည့် အစောင့်နားသို့ အနားတိုးကပ်သွားပြီး နောက်စေ့တည့်တည့်သို့ ဘေးမှချထားသည့် သံတုတ်ဖြင့် ရိုက်ချလိုက်ပါတော့သည်။

ဒုတ်......

အ....

အစောင့်ကတော့ ခွေကျသွားတော့သည်။ အစောင့်၏ အင်္ကျီကို ကောက်ဝတ် ဘောင်ဘီးကိုလဲလိုက်ပြီး အိမ်ကြီးဆီသို့ လှမ်းလိုက်ပါတော့သည်။ ထိုနောက် အိမ်ကြီးဆီသို့ သတိဝရိယ ကောင်းကောင်းထားပြီ လျှောက်ကာ အိမ်ကြီးရဲ့နောက်ဘက်ပေါက်ကနေ ဝင်လိုက်ပါတော့သည်။ ဖာ့ဇလီ ပြောခဲ့သော စကားများကို ပြန်ကြားယောင်မိသည်။

“အိမ်ကြီးရဲ့ အောက် မှာမြေအောက်ခန်းလိုမျိုး စတိုးလိုမျိုးရှိတယ် သူတို့က သေခြားဆောက်ထားတာ အဲဒီထဲမှာ ငါ့ကိုထားတယ် အိမ်ကြီးကတော့ နည်းနည်းကျယ်တယ်ပြောရမယ်”

မြေအောက်ခန်း ဆိုသည့်လမ်းကို သူမှာ ရှာရသေးသည်။ အိမ်ကြီး တစ်ခုလုံးကလည်း တိတ်ဆိတ်နေသည်။ သာမန်အချိန်ဆိုရင်တော့ ကျော်ကျော် တစ်ယောက် သူရဲကြောက်နေမည်။

ခုချိန်တော့ သူရဲထက် ဓားပြကိုကြောက်နေရပြီးလေ၊ ကျော်ကျော် အစောင့်တွေကို လိုက်ရှာကြည့်တော့လည်း မည်သူမှမတွေ့ရချေ။ ကျော်ကျော်ပင် ဇဝေဇဝါ ဖြစ်သွားသည်။ ဓားပြများကဒီလောက် ပေါ့လျော့စွာ ထားသည်ဟု ထင်ယောင်ထင်မှားစွာ မိမိအား ထောင် ချောက်များ ဆင်ထားသည်လားလို့ပင် တွေးမိပါသည်။

အခန်းတွင်းထဲသို့လျှောက် ကြည့်မိတော့ အောက်သို့ဆင်း သွားသော လှေကား တစ်ခုကိုတွေ့သည်နှင့် မစဉ်းစား တော့ဘဲ ထိုလှေကားအတိုင်း အောက်သို့ဆင်းခဲ့ပါတော့သည်။

မြေအောက်ခန်း ကဲ့သို့သော စတိုးခန်းထဲတွင်တော့ တစ်ခေါခေါနှင့် အိပ်နေသော အစောင့်ကိုတွေ့ရပါသည်။ ထိုအစောင့်သည် သူသံဒုတ်နှင့်

ရိုက်ခဲ့သောသူနှင့် အရက်အတူတူ လာသောက်သော တစ်ယောက် ဖြစ်နေသည်။

သူ့၏ဘေးနားသို့ အသာတိုးကပ်သွားပြီး နောက်ကနေ ဆော်ပစ်လိုက်မည်ဟု ရည်ရွယ်ထားသော်လည်း အခြေအနေက ထိုသို့လုပ်ရန် မသင့်တော်ချေ၊ တစ်ခြားအစောင့်တွေများ ကြားသွားလျှင် အခက်ဖြစ်ချေမည် မဟုတ်လား၊ ထိုကြောင့် ဘာလုပ်ရမည်နည်းဟု ဘေးပတ်ဝန်းကျင်ကို ကြည့်လိုက်တော့ မိမိတို့အား စွပ်ခဲ့သော မည်းမည်းခေါင်းစွပ်များ၏ ဘေးနားတွင် အဝတ်ဖြူများနှင့် ပုလင်းတစ်ချို့ကို တွေ့လိုက်ကာ ကျော်ကျော် အသိတစ်ခု ဝင်သွားသည်။

ထိုအရာများ မေ့ဆေးများလည်း ဖြစ်နိုင်မည်။ ထိုကြောင့် အဝတ်များကို ယူလိုက်ပြီး ပုလင်းမှ အရည်များလောင်းချလိုက်ပြီး အစောင့်နှာဝသို့ တေ့ပေးလိုက်သည်။ လက်ကလည်း ဒုတ်ဖြင့်ရွယ်ထားရ သေးသည်။ မေ့ဆေးမဟုတ်ပဲ ထလာလျှင် ဆော်ပစ်လိုက်ရန် ရွယ်ထားတာပါ။ ကံကောင်းခဲ့ပါသည် ကျော်ကျော် တည့်လိုက်သည့် အဝတ်သည် အမှန်တစ်ကယ် မေ့ဆေးရည်များဖြစ်နေခဲ့ပါတော့သည်။

ကျော်ကျော်မှာဝမ်းသာလုံးဆို့ကာ လက်များပင် တုန်လာပါတော့သည်။ အစောင့်ဆီမှ သော့များကို ယူလိုက်ပြီး အခန်းများကို လိုက်ကြည့်ရပါသေးသည်။ မြေအောက်ခန်းကို သေချာ ရည်ရွယ်ချက်ရှိရှိနှင့်

ဆောက်လုပ် ထားပုံရသည်။ အချုပ်ခန်းလိုမျိုး အခန်းငယ်များ တန်းစီရှိနေသည်။ အိမ်အပေါ်ကနေပြီးတော့ ဘာအသံမှလည်း မကြားရခြင်းက ကျော်ကျော်အတွက် ကံကောင်းခြင်းဖြစ်နေပေမည်။ အခန်းများကို သေချာ ဖွင့်ကာ လိုက်ရှာရင်းက နှစ်ခန်းမြောက် တံခါးဖွင့်လိုက်တော့ ဖာ့ဇလီ ကိုတွေ့လိုက်ရပါသည်။

အခန်းတွင် မီးမှိန်မှိန် အောက် တွင် ဖာ့ဇလီရှိနေသည်။ အခန်းတံခါး ဖွင့်သံကြောင့် ဖာ့ဇလီနိုး နိုးလာပါသည်။

ဖာ့ဇလီလည်း အစပထမကတော့ ဝင်လာသူက အကြောင်းရှိလို့ လာတယ်ထင်ပြီး ခနနေတော့ သာမန်ဝင်လာပုံမဟုတ်တဲ့ ပုံစံပေါက်နေသည့်အတွက် ကျော်ကျော်အားတွေ့သည် ကိုပြူးကြောင်ကြည့်နေသည်။

ကျော်ကျော် ပြုံးပြလိုက်သည်ကို ဖာ့ဇလီ မှာ ဘာထင်သည်မသိပဲ ဝုန်းဆိုခုန်အုပ်ပါတော့သည်။ ကျော်ကျော်လည်း ကြောင်ကာ အငိုက်မိသွားကာ ဖာ့ဇလီက အပေါ်က အုပ်မိုးလျှက် ကျော်ကျော်ကို မမှတ်မိပဲ ထိုးရန် ရွယ်လိုက်တော့သည်။

( ကျော်ကျော် ကိုဖာ့ဇလီ မမှတ်မိပါ အဘယ့်ကြောင့်ဆိုသော ကျော်ကျော် ဝတ်လာသော အစောင့်၏ အဝတ်များ ကြောင့် ဖြစ်ပေသည်။ )

ဖောင်း ..

ကျော်ကျော် မေးရိုး အီစလန်ဝေသွားတော့သည်။ ကျော်ကျော် ဖာ့ဇလီ ကိုရင်ဝတည့်တည့်သို့ ကန်လိုက်ကာ ဖာ့ဇလီ နောက်သို့ ပလပ်လန်ကာ ကျသွားချိန်တော့ ကျော်ကျော် အပေါ်ကနေပြီး အုပ်မိုးလိုက်ပြီး လက်ကို ချုပ်ထားလိုက်သည်။

ထိုအခါ ဖာ့ဇလီမှာ အတင်းရုန်းကန်ပါတော့သည်။

“အား…လွှတ်…လွှတ် ခင်များ ဘာလုပ်တာလဲ လွှတ်”

“ဟော့ကောင် မအော်နဲ့ ငါပါ”

ကျော်ကျော်ဘယ်လိုပြောပြော နားမဝင်တော့၊ ကြောက်လန့်တကြား ဖာ့ဇလီမှာ ဆက်လက် အတင်းရုန်းနေသည်။ ဖာ့ဇလီမှာ ပါးစပ်ကနေ အသံထွက်နေသည့် အတွက် ကျော်ကျော်မှာ ဘာလုပ်ရမှန်းမသိတော့၊ လက်ကလည်း မအားတော့ချေ၊ သူ့ကို လက်ကနေ လွတ်သွားတာနဲ့ အသေဆော်ထည့်မည့် ပုံပေါက်နေသည်။

နောက်ဆုံးတော့ ကျော်ကျော် ဘာမှ မစဉ်းစားတော့ဘဲ အားသည့် ပါးစပ်ကနေပြီး ဖာ့ဇလီ နှုတ်ခမ်းကို နမ်းပစ်ပြီး အသံထွက်နေသည့် ပါးစပ်ကို ပိတ်လိုက်ရပါတော့သည်။

အုိ...အုိ....

ကျော်ကျော် နမ်းသည့်နှုတ်ခမ်းကို အတင်းရုန်းကန်နေသော ဖော့ဇလီမှာ အနည်းငယ်ငြိမ်ကြသွားသည်။ ကျော်ကျော် ခုမှ သက်သာသွားသည့် ဟန်ဖြင့် လွှတ်ရန် နှုတ်ခမ်းကိုအကြွ ဖော့ဇလီက မပြောမဆိုကျော်ကျော် နှုတ်ခမ်းကို ကိုက်လိုက် ပါတော့သည်။

"အ...အ....လွှတ်ပါဟ"

"ဟင်...ကြောင်ကြောင်"

"အေး မင်းပြောတဲ့ ကြောင်ကြောင်ပဲ"

"ဟာ မင်းကဘယ်လိုကနေပြီး ဘယ်လိုရောက်လာတာလဲ"

"ဟာကွာ ပြန်ရှင်းပြဘို့ တော်တော် ခက်တယ် လာ...မြန်မြန်ထွက်ကြမယ် အချိန်မရှိဘူး"

"ဘယ်ကိုတုန်း"

"တိန်........"

ကျော်ကျော် မိမိနှဖူးကို မိမိ ပိတ်ရိုက်ပစ်ချင်စိတ် ပေါက်သွားသည်။ ကမ္ဘာအပြင်ဘက်ကို လိုက်မှလား ချစ်ရေ၊ စမ်းတမျှားမျှား ဆိုပြီး ကမ္ဘာ့အပြင်ဘက် သီးချင်းကို ထဆိုဖို့တောင် ဖြစ်တော့မည်။

"ဒီအချိန်မှာမင်းကို ငါနဲ့ အပျော်ခရီးထွက်ဘို့ လုပ်နေတာ မဟုတ်ဘူး ဒီကနေပြီး ပြေးရအောင်လုပ်နေတာ လာခဲ့ အချိန်မရှိဘူး"

ဖာ့ဇလီမှာ အံ့သြမှုမျက်နှာမှာ ပေါ်ထင်နေပြီး နုတ်ခမ်းဟကာ ကြည့်နေသည်။ ကျော်ကျော် အသည်းယားကာ တုန့်ဆိုင်နေသည့် ဖာ့ဇလီကို အားမလို အားမရဖြစ် လာတော့သည်။

လုပ်နေသည့် ပုံစံကိုက နောက်တစ်ခေါက် နမ်းပစ်လိုက်ရ မကောင်းရှိတော့မည်။ ကျော်ကျော်သည် စိတ်မရှည်စွာ ဖာ့ဇလီ လက်ကိုဆွဲကာ အခန်းထဲမှ ထွက်လာခဲ့သည်။ ကျော်ကျော်ကရှေ့က ကုန်းကုန်းကွကွ လျှောက်နေပေမယ့် ဖာ့ဇလီမှာတော့ နောက်က လိုက်လာပြီး ဘာတွေ စဉ်းစားနေသည် မသိ ကျော်ကျော်နောက် ကနေပြီး ကြောင်တောင်တောင် ကြည့်ကာလိုက်လာသည်။ ဖာ့ဇလီမှာ ကျော်ကျော် မေ့ဆေးပေးခဲ့သော အစောင့် အနားရောက်တော့ အစောင့်ကိုတစ်ချက်ကြည့်လိုက်ပြီး

"ကြောင်ကြောင်"

"ရှုးတိုးတိုးလုပ်ပါဟ အစောင့်တွေ ကြားသွားအုံးမယ်"

"ဟိုအစောင့်က အိပ်နေတာလား"

"ငါ မေ့ဆေးပေးထားတာ"

“ဟုတ်လား”

“အင်း ကျန်တဲ့အစောင့်တွေတော့ မတွေ့ဘူး”

“ဟုတ်တယ် နှစ်ယောက်ပဲ ကျန်ခဲ့တယ်နဲ့တူတယ်”

“အော်”

ဖြစ်နိုင်သည်က သူတို့ကို ပေါ့လျော့စွာထားခဲ့ကြသည် ဓားပြများကို ကျေးဇူးတင်ရမည်။ ထိုကြောင့်လည်း လွယ်ကူနေတာ ဖြစ်နိုင်ပါသည်။

“ဒါဆို ငါတို့နဲ့ပါလာတဲ့ နောက်တစ်ယောက်လည်း လွှတ်ပေးလိုက်လေ”

“ဘယ် မှာတုံး”

“ခုဏက ငါ့ကိုထားတဲ့ အခန်းဘက်က ဟိုးအစွန်းခန်းမှာ”

“အင်း”

ကျော်ကျော် အစွန်းခန်းကို ပြန်လှည့် သွားကာ တံခါးသွား ဖွင့်လိုက်သည်။ လူရွယ်တစ်ယောက် ထွက်လာပါသည်။ ကျော်ကျော် တို့ထက်တော့ အသက်ကြီးမည့် ပုံပါပဲ။ ဖာ့ဇလီ ထိုသူကို တိုတိုတုတ်တုတ် ရှင်းပြကာ သုံးယောက်သာ ထွက်လာ လိုက်တော့သည်။

ထိုနောက် အခန်းတွင်းမှ လိုရမယ်ရ အဝတ်တစ်ချို့ကို တွေ့သည့် ကျော်ပိုးအိတ်ထဲ ကောက်ထည့်ကာ အိမ်ကြီးဆီမှ ထွက်ပြေးလာခဲ့ကြတော့သည်။ မကြာခင် မနက်မိုးလင်းသည်နှင့် သူတို့ ငြိမ်နေကြမည်မဟုတ်၊ သူတို့ ထွက်ပြေးတာ သိလျှင် သိခြင်း လိုက်လာကြမည်ကိုတော့ ကျော်ကျော် သဘော ပေါက်ပါသည်။ ထိုကြောင့်လည်း ကျော်ကျော် တို့ မြန်မြန်လှုပ်ရှားရတော့မည်။ အိမ်မကြီးထဲမှ ကျော်ကျော် ဝင်ခဲ့သည့် လမ်းအတိုင်း ပြန်ထွက်ကာ အပြင်ကိုရောက်သည့်နှင့် မရပ်မနား အိမ်ကြီးနှင့် ဝေးနိုင်သမျှ ဝေးအောင် ပြေးလာလိုက်ပါသည်။

အိမ်မကြီးမှ ထွက်လျှင်လဲ ကားလမ်းအတိုင်း ပြေးလို့မဖြစ်ချေ။ လမ်းအတိုင်း ပြေးရန်အတွက်လဲ အဆင် မပြေနိုင်ချေ။ ထိုသို့ ကျော်ကျော် တွေးမိပြီး ဘေးပတ်ဝန်းကျင်ကို လှေ့လာကြည့်တော့လည်း ဘေးပတ်ပတ်လည် တစ်ခုလုံးကလည်း ဆီအုန်းတောကြီးက ခြံရံနေသည်။

“ငါတို့ တောထဲကနေ ပြေးမှ ဖြစ်မယ်”

“ဘာလို့လဲ”

“ဒီလမ်းအတိုင်းဆိုရင် ကားလမ်းမ မတွေ့သေဘဲ ဓားပြတွေနဲ့ ပြန်တိုးနိုင်တယ်”

“အင်း”

ထိုကြောင့် သူတို့ပြေးလမ်းကို တောကြီးထဲကိုပဲ ရွေးချယ်လိုက်ကြတော့သည်။

တောကြီးထဲမှာ မည်သည့်ဘက်က လမ်းဆိုသည်ကို သေခြားကွဲပြားစွာ မသိသော သူတို့ တွေအတွက်တော့ ရှေ့ဦးတည်ရာ ပြေးနေရပါတော့သည်။

ကျော်ကျော်တို့ ထွက်သွားပြီးတော့ ကျော်ကျော် သံတုတ်ဖြင့်ဆော်ခဲ့သော အစောင့်သတိရလာပါတော့သည်။ ထိုအစောင့်သည် ကျော်ကျော်ကို ထားသည့် နေရာကိုကြည့်လိုက်တော့ ကျော်ကျော်ကိုမတွေ့တော့သဖြင့် ခေါင်းနံ့ပန်းကြီးကာ အိမ်ကြီးဆီသို့အမောတကော ပြေးသွားသည်။ သူမြင်လိုက်ရသည့် မြင်ကွင်းက သူ၏အဖေါ်မှာ ထိုင်ခုံပေါ်တွင် ပတ်လပ်လန်ကာ မေ့မျော်နေသည်ကို ဖြစ်ပါသည်။

"ဟေ့ကောင်...ထစမ်း..ထစမ်း..ဟေ့ကောင်"

ထိုအစောင့်မှာ မနိုးသဖြင့် ထိုင်ခုန်ကို ကန်လိုက်ပါတော့သည်။

ဒုန်း............

ကန်လိုက်ပါသော်လည်း ထိုအစောင့်မှာတော့ထ မလာခဲ့ချေ။ သူသည် စဉ်းစားရကျပ်ကာ နောက်တော့ဖုန်းဖြင့် ဆရာသမားကို ခေါ်လိုက်ရပါတော့သည်။

“ဟယ်လို…”

“ဒီအချိန်ကြီး ဘာလို့ခေါ်တာလဲကွာ ငါတို့မအားသေးဘူး ဒီမှာ တိုင်ပင်တာတွေလည်း မပြီးသေးဘူး ဆရာကြီးက အခန်းထဲမှာ”

“ဒီမှာ မိုးမီးလောင်နေပြီး ကောင်းလေးတွေ လွတ်သွားပြီး ဆရာ”

“ဘာကွ…ဟာကွာ မင်းတို့ ဒီကလေး နှစ်ယောက်လေးတောင် မထိန်းနိုင်ကြဘူးလာ အသုံးကိုမကျဘူး ဘယ်အချိန်လောက်က လည်း သူတို့လွတ်သွားတာ”

“မသိဘူးဆရာ ကျွန်တော် နောက်စေ့ကို ရိုက်ပြီးထွက်ပြေး သွားတာပဲ”

“ခန့်မှန်းချေပြောတာကွ”

“မနက် လင်းခါနီးလောက်မှ ဖြစ်တာဆိုတော့ နှစ်နာရီလောက်တော့ ရှိလောက်ပြီး ဆရာ”

“အင်း ဒါဆို အဝေးမရောက်လောက်သေးဘူး ငါလူတွေ လွှတ်လိုက်မယ် မင်းလည်းလိုက်ထား ဘယ်လို လုပ်ရမယ်ဆိုတာ… ဟော ဆရာကြီး ထွက်လာပြီး ဖုန်းကိုင်ထား”

“ဟုတ်ကဲ့”

တစ်ဘက်မှ ဖုန်းကိုကိုင်ပြီး ထိုအစောင့်မှာနောက်စေ့ကိုပွတ်ကာ နေရင်းမေ့နေသော အစောင့်ကိုလည်း ခြေဖြင့်ကန်ကာ နှိုးနေရပါသည်။

တစ်ဖက်မှ ဆရာကြီးဆီကို ဖုန်းပေးရင်းနဲ့ အကျိုးအကြောင်းကို လိုရင်းတိုရှင်း ရှင်းပြလိုက်သည်ကို ကြားနေရ သည်။

"ဟေ့ကောင်"

"ဗျာ"

"ဘာတွေ ဖြစ်နေကြတာလည်း ထွက်ပြေးတဲ့ ကောင်တွေ ... အားလုံး ရှင်းလိုက်"

"ဗျာ"

"ဟာကွာ ဒီကောင်တော့ မင်းတွေ့အောင်ရှာ ပြီးရင် အစဖျောက်လိုက်တော့..ဒါပဲ ငါတို့လည်း ခုထွက်လာခဲ့ပြီး ..မင်းတို့ သူတို့ကို မတွေ့ရင် မင်းတို့ဘာဖြစ်မယ် ဆိုတာ မင်းတို့သိတယ်နော် ဒါပဲ."

"ဗျာ ဟုတ်ကဲ့..ဟုတ်ကဲ့"

ခုတော့ ထိုအစောင့်မှာ မိုးကြိုးပွတ်ခံရလေပြီး မိမိအဖေါ်ကိုလည်း ဒေါကန်စွာ ကြုံးကန်လိုက်ပါတော့သည်။

ထိုသူမှာတော့ အကုန်ထွက်ပြေးကြသည့်အတွက် စိတ်ကို တိုပြီး ဒေါကန်နေသည်။ ခုတော့ ဆရာကြီး ဆိုသူက သူ့ကို ရာဇာသံပေးလိုက်ပြီး ဖြစ်သည်။

## အခန်း (၃)

"ကြောင်ကြောင်"

ဖှဲ့ဇလီ ခေါ်သံကြောင့်ကျော်ကျော် ပြေးနေရမှရပ်လိုက်သည်။

"ဘာတုံး"

"ငါ... ငါ မပြေးနိုင်တော့ဘူး ခဏနားရအောင်ကွာနော် ခြေထောက်တွေလည်း မသယ်နိုင်တော့ဘူး"

ဖှဲ့ဇလီမှာ မောဟိုက်နေသည့် အသံဖြင့် ကျော်ကျော်အား ပြောနေသည်။ ဒူးနှစ်ဖက်ကို ကွေးကာ လက်ကိုထောက်ပြီး မောနေရှာသည့် ဖှဲ့ဇလီအား ကြည့်ပြီး ကျော်ကျော်လဲ အမောဖြေရသေးသည်။ သူတို့နှင့် အတူပါလာသူကတော့ သစ်ပင်ကိုမှီကာ ရပ်နားနေသည်။

"ဒီနေရာက သိပ်စိတ်မချရသေးဘူး ငါတို့လည်း ပြေးသာနေရတယ် ဆီးအုန်းတောထဲကကို မထွက်နိုင်ဘူး ဖြစ်နေတယ်"

"ခဏလေပါကွာ နော် ...နော်"

ဖှဲ့ဇလီ၏ အသနားခံနေသည့် မျက်နှာလေးကို ကျော်ကျော်မကြည့်ရက်ပါ ထိုကြောင့် ခေါင်းညိတ်ပြလိုက်ပါ တော့သည်။ ကျော်ကျော်တို့ ကယ်ထုတ်လာသည့်လူကတော့ တောင်ကြည့်မြောက်ကြည့်နှင့် ဂနာမငြိမ်စွာ ရှိနေ

ပါသည်။ ကျော်ကျော်တို့ ပြေးလာခဲ့သည်ကလည်း မနက်သို့ ပင်ရောက်လို့ နေပါတော့သည်။

“မနားပါတော့နဲ့ကွာ”

“ခဏတော့နားမှပေါ့ အကိုရာ သူလည်း မောနေလို့ပါ”

“ငါတော့ မနားနိုင်ဘူးကွာ”

“ဟာဗျာ”

“မင်းတို့ဟာမင်းတို့နေခဲ့ကြ ငါတော့ဆက်ပြေးတော့မယ်”

“ဟာဗျာ ခင်များကလည်း”

မောနေသည့်ကြားထဲ သူတို့ ထိုအကိုကြီးကိုပြန်ပြောနေရသည်က ပိုလို့ပင် မောလာသည်။ လူတွေရဲ့အသံကလည်း အမောများဖြင့်ပြောနေရသဖြင့် လှိုက်သံများလည်းထွက်နေပါတော့သည်။

“ဟင် ကားသံကြားတယ် ကားလမ်းနဲ့နီးနေပြီးထင်တယ်”

ထိုသို့ပြောပြီး ထိုအကိုကြီးမှာ ကားသံကြားသည့်ဘက်သို့ ပြေးထွက်သွားပါတော့သည်။ ကျော်ကျော်မှာ ဖော့ဇလီကို တွဲခေါ်ကာ ထိုအကိုကြီး ပြေးထွက်သွားသော ဘက်သို့ လိုက်လာခဲ့ပါတော့သည်။ ထိုအကိုကြီးက

တစ်ယောက်တည်း ပြေးရသည့်အတွက် သူတို့ကတော့ မှီအောင် မလိုက်နိုင်တော့ပါ။

ထိုသူပြေးထွက်လာခဲ့သည်။ ကောင်လေး နှစ်ယောက်ကိုတော့ သူထားခဲ့ပါသည်။ ကားကိုမှီလျှင် ခဏရပ်ခိုင်းထားပြီး ကောင်းလေးတွေကို ပြန်ခေါ်ရန် အတွက်လည်း ဖြစ်ပါသည်။ ထိုသူသည်ပြေး ထွက်လာခဲ့သော ကားသံကြားသည့်ဘက်က ကားလမ်းမဟုတ်ပဲ အစောင့်တွေ လိုက်လာသော ကားဖြစ်နေသည်ကို နောက်ကျမှထိုသူ သိရှိသွားသဖြင့် နောက်သို့ ပြန်လှည့်ပြေးရန် ပြင်လိုက်ချိန်မှာတော့ နောက်ကျသွားလေပြီး...

ဒိုင်း................

သေနတ်ဖောက်သံ ကြားလိုက်သော ကျော်ကျော်နှင့် ဖော့ဇလီ မြေကြီးပေါ်သို့ ဝပ်ချလိုက်ပါတော့သည်။

"သေနတ်သံ"

"ဟုတ်တယ်"

"ဘယ်လိုလုပ်မလဲ"

"ပြန်လှည့်ပြေး ရတော့မှာပေါ့"

ဖာ့ဇလီ ပြောပြောဆိုဆိုထပြေးလေတော့သည်။ ကျော်ကျော် ကြောင်သွားကာ ဖာ့ဇလီနောက်က ပြေးလိုက်ပါတော့သည်။ နောက်မှ တောတိုးသံတွေကြားလေ ကျော်ကျော်တို့ အားတိုးပြီးပြေးလေကာ ရှေ့သို့ နောက်လှည့်၍ပင်မကြည့်နိုင်တော့ချေ။

ဝုန်း.............

ဝ...ရော....

မည်သို့ဖြစ်သွားသည်မသိ ပြေးနေရင်းမှ မြေကြီးက နိမ့်ဆင်းသွားတာဟုပင် ထင်ရအောင် နှစ်ယောက်သား အတူတူ လိမ့်ထွက်သွားတော့သည်။ မြေကြီးကနိမ့်ဆင်းသွားသည်မဟုတ်ပဲ ချောက်အသေးစား လေးထဲသို့ ကျော်ကျော်ရော ဖာ့ဇလီ ထပ်ရပ်ကျသွားခြင်းဖြစ်ပါသည်။ ချိုင့်က ခြုံများဖြင့် ပိန်းပိတ်နေကာ တော်ရုံကြည့်တာနှင့် မမြင်နိုင်သည့်အနေထားပါ။ ကံကောင်းသည်လို့ ပြောရမည် ကျော်ကျော်လွယ်လာသော ကျော်ပိုးအိတ်က အောက်ကခံထား၍ ကျော်ကျော် အကျသက်သာသွားသည်။ ပို၍ကံကောင်းသည်ကတော့ ဖာ့ဇလီ ကျော်ကျော်၏ အပေါ်မှ ဖာ့ဇလီ အုပ်မိုးကာ ထပ်ရပ်ရှိနေသဖြင့် ကျော်ကျော် ဖာ့ဇလီကို ဖက်ထားလိုက်ပြီး လက်ညှိုးနှင့် နှုတ်ခမ်းကိုတေ့ကာ တိတ်တိတ်နေရန် အမူယာလုပ်ပြလိုက်ပါသည်။ ဖာ့ဇလီလည်း ငြိမ်သက်နေရသည့် အတွက် မျက်နှာနှစ်ခုမှာ အနီးကပ်ရှိနေပါသည်။

ဖာ့ဇလီ ကျော်ကျော်၏ မျက်နာကို အပေါ်ဆီမှ ကြည့်နေရသော်လည်း ကျော်ကျော်ကတော့ ဖာ့ဇလီကိုကျော်ကာ အပေါ်သို့ အခြေအနေကို ကြည့်နေသည့် အနေထားကို ဖာ့ဇလီ ကြည့်နေရင်းက အစောပိုင်းက ကျော်ကျော် နမ်းခဲ့သော် ကျော်ကျော်နုတ်ခမ်းကို မြင်တွေ့လိုက်၍ ရင်တွေတုန်ကာ သတိရသွားတော့သည်။ ထိုကြောင့် ခန္ဒာကို နည်းနည်း တွန့်သွားသွားသဖြင့် ကျော်ကျော်လက်က ဖာ့ဇလီကို တင်း၍ ပိုဖက်ထား လိုက်သည်။ ဖာ့ဇလီ ရုန်းလို့မရတော့၊ ရင်တွေကလည်း မောတာလား ကြောက်တာလား ရင်ခုန်တာလား မသိအောင် တစ်ဒိန်းဒိန်း ရှိလှပါ ပေသည်။

အပေါ်မှ ကားသံကြားရသည်။ ပြေးသွားသော အကိုကတော့ မည်သို့ ရှိနေမည်နည်း။ သေချာတာကတော့ သေနတ်မှန်သွားတာပဲ ဖြစ်ရမည်။ အပေါ်မှ စကားသံများကိုကြားရလေတော့သည်။

"ဟော့ကောင်တွေ တွေ့လား"

"ဟာ ဆရာတို့လာပြီး မတွေ့သေးဘူး ဆရာ တစ်ယောက်တော့ ဖမ်းမိထားတယ် သူကိုပစ်လိုက်တာ ဒဏ်ရာ ရသွားတယ်"

"ဖျောက်ပစ်လိုက်တော့ တစ်ယောက်မှ အရှင်မထားနဲ့"

"အေး ဟိုကလေးနှစ်ယောက်ကိုမတွေ့ရင် မင်းတို့ အသက်တွေ နောက်နေ့ မရှိဘူးလို့သာ မှတ်ထားလိုက်"

"......."

"မြန်မြန်ရှာကြ ကလေးနှစ်ယောက်တောင် မနိုင်ဘဲနဲ့ မင်းတို့ တော့ကွာ လူခွဲရှာကြ ဒီတောင်ကနေပြီး ဒီကလေးတွေ မပြေးနိုင် လောက်ဘူး လူသူဝေးတဲ့နေရာဖြစ်နေလို့လည်း မင်းတို့ ကံကောင်း တယ်မှတ်ကြ သွားခုသွားရှာကြ ဒီမှာ ရပ်မနေကြနဲ့"

ထိုစားပြမျှား အသီးသီး ထွက်သွားကြတော့ ဘာအသံမှ မကြားရတဲ့ အထိ ကျော်ကျော် ကဖော့ဇလီကို မလွှတ်ပေးပဲ ဖက်ထားသည်ကို ဖော့ဇလီ ရုန်းလိုက်ပါသည်။

"နေအုံး သူတို့တွေရှိနေနိုင်သေးတယ်"

ကျော်ကျော် လေသံဖြင့်ဖော့ဇလီ ကိုမလွှတ်ပဲ တားလိုက်သည်။

"ဒါဆိုလည်း ဖက်ထားတာ နည်းနည်းလျော့ကွာ အသက်ရှူ ကျပ်တယ်"

ထိုအခါမှ ကျော်ကျော်သတိရကာ လက်ကို လျော့ပေးလိုက်တော့သည်။ ဖော့ဇလီ မှာတော့ရင်တွေခုန်တာ မပျောက်သေးပါ ။ တော်တော်ဆိုးသည့်

ကြောင်ကြောင်။ အခြေအနေက တိတ်ဆိတ်လို့ နေတော့သည်။ သူတို့နှစ်ယောက်လည်း ချောက်ထဲမှ ထွက်ရန်လမ်းစ ရှာနေရပြီး၊

"ဖားဇလီး"

"အင်း"

"သူတို့တွေ ခန့်မှန်းချေ ဘယ်လောက်ရှိမလည်း"

"ငါ့ကို ခေါ်တွေ့တုန်းကတော့ ၁၀ ယောက် ကျော်ကျော်လောက်ရှိမယ် တွေ့ခဲ့တာတော့"

"ဗလတွေ ကြီးလား"

"အကောင် တောင့်တောင့်ကြီးတွေကြီးပဲ မနိုင်တာတော့ သေခြာတယ်"

"မင်း ဘာတွေတတ်လည်း"

"ဘာကိုလဲ"

"ရှောင်လင်တို့ ကွန်ဖူတို့ ကရားတေ တို့"

"အင်း...."

ဖာ့ဇလီ စဉ်းစားသလို လုပ်သည်၊ ကျော်ကျော် လည်းအားတက်သရော ကြည့်မိသည်။ သူသင်တန်းတွေ ပြန်စဉ်းစားနေတာ ဖြစ်မည်။ မေးဆော့ တောင်ပွတ်လိုက်သေသည်။

"ဘာမှတတ်ဘူး"

"ဟင်......ဒါများ ကွာ စဉ်းစားနေသေးတယ်"

ကျော်ကျော်အားပင် ပြတ်သွားတော့သည်။

"ဂိမ်းတွေတော့ ရတယ်ကွ မာဖီယာတို့ ကွန်မန်ဒိုတို့ပေါ့"

"သေလိုက်ပါလား ဂိမ်းတွေက ဘာလုပ်ရမှာလဲဟ"

"ငါတတ်တာလည်း ပြောပြရသေးတယ် ဒါနဲ့ မင်းကတော့ တတ်မှာပေါ့"

"အေး.....တတ်တယ် အပြေးပဲ"

"အံမယ် လှျှိုမထားပါနဲ့ မင်းငါ့ကိုလာကယ်တုန်းက အစောင့်နှစ်ယောက်တောင် ဆော်ခဲ့သေးတာပဲ"

"ဒါကလည်း ပုန်းလှျှိုကွယ် လှျှိုနဲ့နောက်က ချခဲ့တာကွ"

ဖာ့ဇလီမှာ ကျော်ကျော်ကို အားကိုးတစ်ကြီး ဖြစ်ကြည့်နေရာက

“ဟာ....”

“ဘာတုံး မင်းကလဲ”

“မင်းနှုတ်ခမ်းကြီး ဘာဖြစ်လာတာလဲ ယောင်လာတယ် အကောင်တစ်ကောင်ကောင် ကိုက်လိုက်တာလား”

ဖူဇလီ စကားကြောင့် ကျော်ကျော် နှုတ်ခမ်းကို စမ်းလိုက်သည်။ နှုတ်ခမ်းက နည်းနည်းနာကာ နေသည်။ ကြည့်ရတာ ဖူဇလီ ကိုက်လိုက်တာ ခုမှသွားဆိပ်တက်တာဖြစ်မည်။

“ခွေး ကိုက်လိုက်တာ”

ကျော်ကျော် စကားကြောင့် ဖူဇလီ ဇဝေဇဝါ ဖြစ်သွားသည်။ နောက်မှ ဖူဇလီ သတိရသွားကာ မေးမည့်သည့် မိမိကိုယ်သာ အပြစ်တင်မိတော့သည်။

“သေလိုက်ပေါ့ မင်းကခွေးတောင်အလွတ်မပေးပဲ နှုတ်ခမ်းသွားသရမ်းတာကို”

“အေး သူကအော်မယ်လုပ်တော့ မအော်အောင် ပိတ်လိုက်ရတာ သိပြီးလား”

“တော်တော် ....တော်ပြီး ဒီအကြောင်း ဒီတင်ရပ်”

“မင်းပဲ လာမေးပြီးတော့”

“မှားပါတယ် ဗိုက်ဆာတယ်ကွာ”

“ဘာမှမရှိဘူး စားစရာလည်း ခုတော့ ဒီတောထဲကလွတ်ဖို့ပဲ စဉ်းစားစမ်းပါ”

“ငါမှ မင်းလောက် မသိတာ”

“ဘာရယ် ဘယ်လိုပြောလိုက်တယ်”

“ဟုတ်တယ်လေ ငါကမှမသိတာ”

“မင်းကတော့လေ...ငါက မလေးနိုင်ငံသား မဟုတ်ဘူး မင်းက ဒီနိုင်ငံသားလေ မင်းက မသိတာတောင် ငါဘယ်လိုသိမှာတုံး”

“ဟူး.... ဒါနဲ့ အခုဘယ်ကိုသွားမှာလဲ”

“မင်း တိတ်တိတ်လိုက်ခဲ့ကွာ ခု ဒီချောက်ထဲကထွက်မယ် ပြီးရင် လွတ်လမ်းရှာရမှာပေါ့”

“အင်း”

ထိုနောက် နှစ်ယောက်သား ထထွက်ရန် ပြင်ဆင်လိုက်သည်။

"သူတို့ပြောတယ် ဒီတောင် ဆိုတော့ ငါတို့ တောင်ပေါ်ရောက်နေတာလား"

"အင်းဖြစ်နိုင်တယ် ငါတို့ဆီးအုန်းတောရဲ့တစ်ဘက်ကို ရောက်နေပြီထင်တယ်"

"ဟုတ်မယ်ကွ နေရောင်တောင် ကောင်းကောင်းမမြင်ရဘူး ကြည့်ပြီးလည်းသွားအုံး တောကောင်တွေနဲ့ တိုးအုံးမယ်"

"မင်းပြောမှ ငါတောင်လန့်လာပြီး"

ဖှဲ့ဇလီမှာ ကျော်ကျော်စကားကြောင့် လျှောက်နေသည့် ခြေလှမ်းများ တန့်သွားသည်။

ကျော်ကျော်တို့ သတိဝရိယပိုထားကာ သွားနေရသည်။ ဓားပြလည်း ကြောက်ရ တောကောင်လည်းကြောက်ရနှင့် ခုတော့ကျော်ကျော် ဘဝမှာ ပထမဦးဆုံး စွန့်စားခန်းကြီးကို အသက်နှင့်ရင်းက စနေရပြီးလေ။ မတတ်နိုင်တော့ ဘဝပေး ကုသိုလ်ကံကိုက နည်းခဲ့လို့လည်း ဒီလို ဖြစ်ရတာပဲလို့ တွက်ရတော့မည်။

ဖောင်း........

ဘယ်ကနေဘယ်လိုပေါ်လာသည်မသိသော ဒမြတစ်ယောက်က ဖာ့ဇလီကို နောက်ကနေ ချလိုက်တော့သည်။ ဖာ့ဇလီမှာ မြေကြီးပေါ်သို့ ခွေခွေလေး လဲကျသွားသည်။

"ဟာ...ဖားဇလီး"

"ဟဟဟဟ စောက်ကလေးတွေ သေဘို့သာပြင်တော့"

ဓားပြ၏ခန္ဓာကိုယ်က ကျော်ကျော် ထက်ကြီးပါသည်။ ကျော်ကျော် ဘာလုပ်ရမှန်းမသိတော့ နောက်သို့ ခြေလှမ်းငါးလှမ်းလောက် ဆုတ်လိုက်ပါတော့သည်။ ထိုနောက် အရှိန်ဖြင့်ပြေးကာ ဓားပြကို ကန်လိုက်ပါတော့သည်။

ဖောင်း.... အ

ဓားပြ လဲကျသွားသည်မဟုတ် ကျော်ကျော်ကို ဓားပြကဆီကြိုကာ ခြေဖြင့် ကန်လိုက်သည်ဖြစ်ပါတော့သည်။ ဓားပြလည်း ကျော်ကျော်ဆီသို့ လျှောက်လာပါတော့သည်။

"မလောက်လေး မလောက်စားလေးကများ အေး... ငါကလည်း ခုလို မလှုပ်ရှားရတာကြာတော့ ပိုလို့တောင် ကြိုက်သေးတယ်ကွာ"

ဖာ့ဇလီလည်း ကုန်းရုန်းထလာပြီး ဓားပြ၏နောက်မှ ကိုယ်ပေါ်သို့ ခုန်တက်လိုက်ပါတော့သည်။ ဓားပြကလည်း ဖာ့ဇလီကို နောက်ပြန် လှမ်းဆွဲချိန်မှာ ကျော်ကျော်က ဓားပြရှေ့မှ ဝင်လုံးပါတော့သည်။ သုံးယောက်သား ရွာပတ်ကာ ပတ်လည်ရိုက်နေကြပါတော့သည်။ ဓားပြမှာလည်း သိုင်းများတက်ထားသော်လည်း ခုလိုတော့ မလုံးဖူးဘူး တူပါသည်။ ကျော်ကျော်ကလည်း ရှေ့မှ ဓားပြကို ရသည့်ဗိုက်ကိုကိုက် ဖာ့ဇလီ လည်း ဓားပြ၏နားရွက်ကို ကိုက်လိုက်ပါတော့သည်။

"အား...."

ဓားပြလည်း အင်းအားသုံးပြီးကန်လေ ကျော်ကျော်မှာတော့ အထိနာ ပေမယ့် မလွှတ်ပေးနိုင်ချေ။ သူလွှတ်လိုက်လျှင် သူတို့နှစ်ယောက်လုံး သေလူ ဖြစ်သွားတော့မည် အသိက ကြီးဆိုးနေသောကြောင့် ရရာကို သံမှိုလို ဆွဲခဲထားရပါတော့သည်။ နောက်ဆုံး ကျော်ကျော်လက်က ဓားပြ၏ ငယ်ပါးကို လုံးချေကိုင်လိုက်ပါတော့သည်။

"အား...."

ဓားပြခမျာမှာလည်း အပေါ်ကကိုက် အောက်ကညှစ်နှင့် မခံနိုင်တော့ချေ ရုန်းအားလည်း နည်းလာပါတော့သည်။ သုံးယောက်သာ လုံးရင်းက ချောက်ကန်ပါးမှ လုံးထွေးစွာကျသွားပါတော့သည်။

ဝရော.............ဝုန်း......ဗွမ်း....

ကျော်ကျော်တို့ ပေ ၂၀ လောက်အမြင့်ကနေပြီး ပြုတ်ကျသွားခြင်း ဖြစ်သည်။ ကန်ကြီးက တောင်ပေါ်မှာရှိနေကာ လူနှစ်ရပ်စာသာ နက်သော ကန်ဖြစ်ပါသည်။ ကန်ကြီး၏ အပေါ်မှာတော့ ရေတံခွန်သဖွယ် စီးကျနေပါသည်။

ကန်ကြီးဘေးမှ ရေလာသောက်နေသော တောကောင် မျောက်များက လန့်ကာပြေးကြသည်။ ကျော်ကျော်မှာတော့ ရေကမွန်း အသက်က ရှူရတာပင် မဝတော့ချေ ရေထဲကျတော့ လူတွေကွဲသွားကြသည်။ ရေစီးကလည်း အနည်းငယ်သန်နေကာ ကျော်ကျော်ကတော့ အတင်း ရေကူးနေရသည်။ ကန်၏ အနေထားက သိပ်မကျယ်သဖြင့် ကျော်ကျော် ကမ်းခြေရှိ ကျောက်တုံးကို ဖက်ထားရင်း ဖာ့ဇလီကိုရှာ ရသည်။ ဖာ့ဇလီကတော့ ကျော်ကျော်နှင့် ဆန့်ကျင်ဘက် တစ်ဖက်ကမ်းသို့ ရောက်နေပါတော့သည်။ ဖာ့ဇလီလည်း အမောဖြေနေပုံ ရကာ ကျော်ကျော်ကို မြင်သွားသဖြင့် လက်ပြလိုက်သည်။

ကျော်ကျော်တို့နှင့်အတူ ကျလာသော ဓားပြတော့မတွေ့ရ ဘယ်ရောက် သွားသည်မသိ သေများသေပြီးလားလည်း မပြောတတ်ချေ။ ကျော်ကျော် ဖာ့ဇလီ ဆီသွားရန် ရေကူးရန်ဟန်ပြင်တုန်း

ဒိုင်း........ရှိုး..........

"အောင်မငီး..."

ကျဥ်စံသည် ဖာ့ဇလီရှိသည့် ကန်ဘက်ကုန်မြင့်က လာခြင်းဖြစ်ပါသည်။ ကျော်ကျော် အနားမှဖြတ်ကာ ကျောက်တုံးကို မှန်သွား ပါတော့သည်။ ကျော်ကျော်လည်း ကမ်းပေါ်တက်ပြေးကာ ဖာ့ဇလီကိုပြေးရန် လက်ဟန်အမူယာပြ၍ ပြေးပါတော့သည်။ ဖာ့ဇလီလည်း ကျော်ကျော် ပြေးသည့်အနေထားအတိုင်း ရေစီးကြောင်းအလိုက် ပြေးပါတော့သည်။ ကိုယ်လက်တွေ နာပေမယ့်လည်း ကျော်ကျော်မှာမရပ်နိုင်အားပါ။ ပြေးမှ လွတ်မည်လေ။ ပြေးထားကွဟု မိမိကိုယ်ကို အားတင်းကာ ပြေးပါ လေတော့သည်။ သစ်ပင် ကိုင်းပင်များနှင့် ပြေးရသည်က လွတ်လွတ် လပ်လပ်မရှိပါ။

ကျော်ကျော်မှာတော့ အားတွေ မလျော့အောင်လုပ်နေရပါတော့သည်။ အားလျှော့ လိုက်လို့ကတော့ ကျော်ကျော်လူပြည်မှာ မရှိတော့ပါချေ။ ပြေးထား ကျော်ကျော်ရေ....

ပြေးရင်းပြေးရင်းက ရေစီးကြောင်းလည်း ပျောက်သွားသည်။ ချုံတွေ ထူတာတွေ ပေါများနေသည့်အတွက် ရှောင်ပြေးနေရင်က ရေစီး ကြောင်းလဲ မတွေ့တော့ချေ။ ဘယ်စီရောက်လို့ ဘယ်သို့ပင် ရှိနေမည်

မသိတော့ ပြေးသာပြေးနေရသည် ပြေးသည့်အရှိန်လည်းမလျော့ရဲပါ.....။ ပြေးနေရင်းက မိမိရှေ့သို့ ရုတ်တရက် သတ္တဝါလား လူလား မသိသော အရာတစ်ခု ရုတ်တရက် မြင်လိုက်ရပြီး ရှောင်ချိန်မရလိုက်တော့ပါ။

အုန်း.......ဘုန်း...

အရှိန်နှင့်ပြေးနေရင်းက လူရိပ်ဟုထင်လိုက်သော အရာနှင့်ဝင်ဆောင့်ကာ ကျော်ကျော်ဝင်တိုက် မိလိုက်တော့သည်။ တိုက်လိုက်သော လူရော ကျော်ကျော်ရော လဲကျကာ နှစ်ယောက်သာ အနည်းငယ် အရှိန်ဖြင့် ဝေးကာ ထိုင်လျက် ကျသွားတော့သည်။

အာ........

"ကြောင်ကြောင်"

"ဖားဇလီး"

တစ်ခါမှ ယခုလို ဝမ်းသာအရ မဖြစ်မိချေ။ တိုက်မိသည့် အရှိန်နှင့် နာကျင်ရပေမယ့် ထိုနာကျင်ချက်က လုံးဝ ပျောက်သွားတော့သည်။ ဝမ်းသာအားရ ကုန်းထကာ ပြေးဖက်မိကြသည်။ ဒီအချိန်မှာ ကျော်ကျော်ရင်ထဲ ဝမ်းသာမှုသည် အတိုင်းမသိ မပြောပြတတ်အောင်ကို ခံစားရပါသည်။ ဒုက္ခရောက်တာခြင်းအတူတူ ပြီးတော့ သေဖော်သေဖက် ပြန်တွေ့ရသည့်အခိုက်တန့်သည် ကျော်ကျော် ရင်ထဲမှာ ကြည်နူးမှုတွေ နှင့်

ပြည့်နှပ်နေပါတော့သည်။ ဖာ့ဇလီလည်း ကျော်ကျော်လိုပင် ခံစားရမည်ကိုတော့ ကျော်ကျော် နားလည်ပါသည်။ နှစ်ယောက်သား ဖက်နေကြသည်မှာ လွတ်ထွက်သွားမည်ကိုပင် ကြောက်နေကြသည်။

ကျော်ကျော် တောထဲမှ မျောက်များအော်သံကြောင့် အသိဝင်လာကာ ဖာ့ဇလီကို လွှတ်လိုက်ပါတော့သည်။ ထိုအခါမှ လူချင်းခွာကာ တောထဲပုန်းလို့ အကာအကွယ် ကောင်းမည့်နေရာသို့ လိုက်ရှာရလေသည်။ မိမိတို့ကို လိုက်ရှာသည့် အဖွဲ့ကလဲ အနီးအနားမှာ ရှိနေနိုင်သည်မဟုတ်လား။ ခြုံများပေါ်များနေလို့သာ ပုန်းကွယ်လို့ ရနေသည်။

"မင်းဘာဖြစ်သေးလဲ ကြောင်ကြောင်"

"အင်း ဘာမှတော့မဖြစ်ဘူး မင်းရောဘာဖြစ်သွားသေးလဲ"

"ငါကတော့ မင်းကို စိုးရိမ်လိုက်ရတာကွာ မင်းများ တစ်ခုခုဖြစ်ပြီလာလို့"

"ရပါတယ် ...ဟင် . မင်းနှခေါင်းမှာ သွေးတွေနဲ့ ငါနဲ့တိုက်မိတုန်းကဖြစ်တာလာ"

"မဟုတ်ဘူး ဓားပြခေါင်းနဲ့ ဆောက်မိတာ မင်းလည်းဘာထူးလဲ မျက်နာတစ်ခုလုံးဖူယောင်နေတာပဲ"

နှစ်ယောက်သား အပြန်အလှန် မျက်နှာများနှင့် ခန္ဓာကိုယ်တစ်ချို့ နာနေသည့် နေရာများကို အနည်းငယ်ဆီ လိုက်ကြည့်မိကြသည်။ မိမိတို့နှင့်အတူ ရေထဲပြုတ်ကျသွားသည့် လူဆိုးတစ်ယောက်တော့ ဘယ်လိုနေသည် မသိချေ၊ ကျော်ကျော်တို့မှာတော့ တော်တော် နာကျင်နေသည်။

"ထားပါတော့ကွာ ငါတို့ ဒီအတိုင်းနားနေလို့တော့ မဖြစ်ဘူး ပြေးကြမယ်"

"အင်းဟုတ်တယ် သွေးပူနေတုန်းကောင်းတာ နားလိုက်ရင် ငါတို့ လှုပ်နိုင်မှာတောင် မဟုတ်ဘူး"

"အင်း ဟုတ်တယ်..လာ"

"ပြေးရတာလဲ အရင်လိုမသွက်တော့ဘူးကွာ အဝတ်တွေကလည်း ဆိုနေပြီး"

"ဆိုနေလို့ တုံးလုံးပြေးလို့လည်း ရမှမရတာ ပြေးနိုင်သလောက် ပြေးကြမယ်လာ ဒီနယ်နဲ့ဝေးရင်ပြီးရော"

ကျော်ကျော် ဖာ့ဇလီလက်ကိုဆွဲကာ ပြေးထွက်ခဲ့ပါတော့သည်။ တောင်လေတွေတိုက်နေသည်။ အေးလိုက်သည့်ဖြစ်ခြင်း၊ နေတိုးလို့ မပေါက်သော တောထဲတွင်တော့ လူငယ်လေး နှစ်ယောက်မှာတော့ အေးသည့်

ခံစားမှုကို အာရုံမထားနိုင်ဖြစ်နေရသည့် ဘဝတွေ့ဆုံမှုကတော့ ပျော်ရွှင်စွာသွားနေရသည့် အနေထားလည်းမဟုတ်၊ အသက်လု၍ ပြေးနေရသောသူ့တို့ဘဝရဲ့ တိုက်ပွဲတစ်ခုကို အားတင်းကာ ပြေးလွှားနေရသည့်အနေထားပင် မဟုတ်လား။ သူတို့၏စိတ်ထဲတွင် ချစ်သူများကိုလည်းသတိရမနေ၊ သူတို့အတွက် စိတ်ပူနေကြမည့် မိဘများကိုလည်းသတိမရချေ။ ဖြစ်သည့် လက်တွေ့လက်တွေ့တွင်တော့ မိမိအသက်ကိုဂရုစိုက်ကာ ပြေးနေရတော့သည်။ သို့ပေမယ့် လက်ရှိသေတူမကွာပြေးနေရသည့် တစ်ဦးအပေါ် တစ်ဦးကတော့ လက်များ လွတ်ထွက်သွားမလား စိုးရိမ်းစိတ်များဖြင့် တွဲလက်များ မလွတ်သွားအောင် ဆွဲမြဲစွာကိုင်ပြီး ပြေးနေကြပါသည်။

"ကြောင်ကြောင်"

ဒီအချိန်မှာတော့ ကျော်ကျော်အနေဖြင့် မိမိနာမည်အမှားကိုလည်းပြန်ပြီးပြင်ရန်ခေါ်စေမနေတော့ချေ။

ကျော်ကျော် ပြေးနေရင်မှရပ်လိုက်ပြီး ဖှာ့ဇလီကိုကြည့်လိုက်ကာ မေ့ဆတ်ပြလိုက်သည်။ ကျော်ကျော် နှင့် ဖှာ့ဇလီမှာလည်း မောဟိုက်နေပါသည်။ ဘယ်အချိန်တွေ ရောက်လို့ ဘယ်ခရီးပင်ရောက်နေသည်မသိတော့၊

"ငါ......ငါ.....မော....လာ....ပြီး...ကွာ"

ကျော်ကျော် လည်းမောနေပါသည်။ ဖော့ဇလီ လိုပင် စကားတောင် ပြန်မပြောနိုင်လောက်အောင် မောလှပါသည်။ ဗိုက်တွေကလည်း ဆာလှပြီး၊ ဒီအချိန်မှာသာ နားလိုက်လို့ကတော့ ထပင်ထနိုင်တော့မည် မဟုတ်။ သွေးပူတုန်း ပြေးတာ ကောင်းမည် မဟုတ်လား။

ဖော့ဇလီ လက်ကိုကျော်ကျော် ပြန်ဆွဲလိုက်ပြီး မနားရန် အမူယာဖြင့် ပြောကာ ယခင်ကလောက်တော့ မပြေးတော့ပဲ အနေတော် ခပ်မြန်မြန် လေး လမ်းလျှောက်ရုံသာ ရှေ့ဆက်ခဲ့ပါတော့သည်။

ဖော့ဇလီမှာတော့ ကျော်ကျော် ဆွဲရာသို့ တရွတ်တိုက် မပါရုံတမည် လိုက်လာရပါတော့သည်။

“ဟာ.....ဟိုမှာကြည့်စမ်း”

ကျော်ကျော် အားရဝမ်းသာ ဖော့ဇလီကိုလက်ညိုးဖြင့် ညွှန်းပြလိုက်သည်။ ကျော်ကျော် ပြလိုက်သည်က ပိန်းနွဲသီး များဝင်းမှည့်နေသော ပိန်းနွဲပင် ကြီးပင်ဖြစ်ပါသည်။ နှစ်ယောက်သား ဝမ်းသာအားရ ပိန်းနွဲပင်ကြီး ဆီပြေးသွားကာ လူတစ်ရပ်စာလောက်မှာ အသီးက မှည့်နေသော ပိန်းနွဲသီးကြီး ခူးလိုက်ကာ ဝမ်းသာအားရ ခြေဆင်းထိုင်ကာ ကျောက်ခဲ တုန်းဖြင့် ထုခွဲစားလိုက် ကြတော့သည်။

"ဝါ....ဒီလောက်အရသာရှိတဲ့ပိန်းနွဲသီး တစ်ခါမှ မစားဖူးဘူး စားလို့ ကောင်းလိုက်တာ"

ဖာ့ဇလီ၏ အာလုတ်သံဖြင့် ပြောသောစကားကို ကျော်ကျော်မှာ ခေါင်းညိတ်ကာ ဖြေပေးလိုက်သည်။ သူ ဖာ့ဇလီကို ပြန်ပြောဘို့ နှုတ်က မအားချေ။ သူလည်း အားရဝမ်းသာ စားနေသောကြောင့်ဖြစ်ပါသည်။ ပိန်းနွဲသီး တစ်လုံးသည် ခဏသော အချိန်မှာ ကုန်သွားပါတော့သည်။ ဗိုက်တွေကလည်း လေးလာပြီး၊ လူကလည်း ပန်းနေချိန်ဆိုတော့ မျက်လုံးများလည်း လေးလာကြတော့သည်။

"ရေ ရေဆာပြန်ပြီး"

"ဒီအနီးအနားမှာ ရှိလောက်မယ် ထ"

နှစ်ယောက်သား အနီးအနားပတ်ရှာလိုက်တာ သူတို့ပြေးလာသည့် ရေတံခွန်မှ ကျသည့် ရေစီးကျောင်းအား ပြန်တွေ့လိုက်သည်။ ရေကို သန့်သည် မသန့်သည်ကို ထည့်မတွက်တော့ဘဲ နှစ်ယောက်သား ဝမ်းသာ အားရ သောက်လိုက်ကြတော့သည်။

"ဟူး ခုမှ ပြည့်စုံသွားတော့တယ်"

"ငါတို့ ဆက်နားနေရင်တော့ အိပ်ပျော်သွားလောက်တယ်"

"အင်း ငါလည်း တအား ပင်းပန်နေပြီး ခြေလက်တွေလည်း မသယ်ချင်တော့ဘူး"

"ငါလည်း မင်းလိုပါပဲ ဖားဇလီးရာ ဒါပေမယ့်လို့ လုံခြုံတဲ့နေရာ မဟုတ်တော့ နားလို့လည်း မဖြစ်ဘူးလေ"

"အာ...ကွာ..."

ဖာ့ဇလီ စိတ်ပျက်ပျက်နှင့် မြက်ခင်းပြင်ပေါ်ဝယ် ပက်လပ်လန် ချလိုက်ပါသည်။

"သိပ်စိတ်ညစ်ဖို့ ကောင်းတာပဲ ဒါပေမယ့် မင်းရှိနေတော့ အားအရမ်းရှိတာပဲကွာ"

"အဟ... ဟုတ်မှလည်း ပြောပါ့ကွာ ဖားဇလီးရာ"

"တစ်ကယ်ပြောတာ ငါတစ်ယောက်တည်းဆိုရင် သေနေလောက်ပြီ မင်းက ငါ့အတွက် လမ်းပြကြယ်လေးပါကွာ"

"ဘယ်လို"

"ဟုတ်တယ် မင်းက ငါ့ရဲ့ထွက်ပေါက်တွေကို ပြတဲ့သူ တစ်ယောက်လေ ငါ့ကိုအသက်ဆက်ပြီး ရှင်စေသူပေါ့"

"တယ်ဟုတ်ပါ့လား သိပ်မပြောနဲ့ကွာ လူကမြှောက်ချင်လာပြီး"

“ငါတော့ အိပ်ချင်လာပြီး”

“အိပ်လို့တော့မဖြစ်ဘူး ထတော့ လစ်ကြရအောင် ဗိုက်လည်း ပြည့်သွားပြီး နောက်က လိုက်မယ့်သူတွေက ရပ်နေကြမှာ မဟုတ်ဘူး လစ်ကြစို့”

“ဟာကွာ... အင်းပါ...လစ်ကြစို့ ဒါပေမယ့်လေ ဒီအချိန်မှာ ဟိုတယ်မှာ နှပ်လိုက်ရရင်တော့ကွာ”

ကျော်ကျော် ပြုံးလိုက်ပါတော့သည်။ ကျော်ကျော် ထရပ်လိုက်ပြီး ဖော့ဇလီကို လက်ကမ်းကာ ပေးလိုက်တော့သည်။ ဖော့ဇလီ ရင်ထဲပျော်ရွှင် နှစ်သက်မိသွားတော့သည်။ ကျော်ကျော်လက်ကိုဆွဲပြီး ဖော့ဇလီ ထရပ်ကာ ခရီးဆက် ခဲ့ကြပါတော့သည်။

*************

# အခန်း (၄)

ကျော်ကျော်တို့ မသိလိုက်သည့် တစ်ခြားတစ်ဘက်မှာလည်း ဖာ့ဇလီကို ပိုက်ဆိတ်တိုက်ကာ ရှာနေကြပါပြီး၊ နိုင်ငံတစ်ခုလုံးရှိ စစ်ဘက်ရော ရဲဘက်တွေကပါ လှုပ်ရှားနေကြပါတော့သည်။ တစ်တိုင်းပြည်လုံးလည်း ဟိုလေးတစ်ကျော်ကျော် ဖြစ်နေပါတော့သည်။ ထို့အတူ ဓားပြမျှားက လည်း လွတ်သွားသည့် သူတို့နှစ်ယောက်ကို လိုက်ရှာနေရသည်။ သူတို့နှစ်ယောက် လွတ်သွားခဲ့လျှင် ဖြစ်လာမည့် ပြဿနာမျှားကို ဓားပြမျှားကလည်း ကြိုတင်တွက်ဆစွာ လှုပ်ရှားနေရပါတော့သည်။

******

ကျော်ကျော် နှင့်ဖာ့ဇလီ မှာတောထဲတွင်တော့ တိတ်ဆိတ်စွာ သတိဝရိယဖြင့် သွားနေရပါတော့သည်။ အခြေအနေကိုလည်း သုံးသပ် တတ်လာတော့သည်။ တောသည် တိတ်ဆိတ်နေလျှင် သူတို့အတွက် လှုပ်ရှားမှုကို သတိဝရိယ ပိုထားကာ လျှောက်လမ်း နေရပါတော့သည်။

တစ်နေ့လုံးလှုပ်ရှား စွာသွားလာနေရတော့ လူတွေလည်း ပင်းပန်လာ တော့သည်။

“ကြောင်ကြောင်”

“ဟင်”

“ငါတော့ ဖျားချင်နေပြီနဲ့တူတယ် ကိုယ်တွေလက်တွေ ကိုက်နေပြီ”

“ငါလည်းတူတူပါပဲကွာ ဒါပေမယ့် အားတင်းထားပါ ဖားဇလီးရယ်”

“ငါ့ကိုထားခဲ့ပြီး မင်းသွားပါတော့လာ”

ကျော်ကျော် သည် ဖာ့ဇလီကို သနားဂရုနာစွာ ကြည့်လိုက်ပါသည်။ အင်္ကျီများလည်း ဆိုရွှဲလို့နေသော သူသည်လည်း နေမကောင်း ဖြစ်လောက်ပါသည်။ ကျော်ကျော် အနေနှင့်တော့ ဖာ့ဇလီကိုထားခဲ့ပြီး တော့ မသွားနိုင်ပါ၊ သေဖော်သေဘက် တူတူပဲလေ။

“အင်း ငါတို့နားကြတာပေါ့ အချိန်လည်း တော်တော်လင့်နေပြီး ခိုအောင်းလို့ ကောင်းမယ့်နေရာမျိုးလေး ငါ ရှာလိုက်အုံးမယ်နော်”

ဖာ့ဇလီ ခေါင်းညိတ်ပြလိုက်ပါသည်။ ကျော်ကျော်လည်း မိမိတို့ ကောင်းမွန်စွာ နားနေနိုင်ရန်အတွက် ရှာရင်းက ကိုက် ၁၀ လောက် အကွာ တွင်တော့ လင့်စင် တစ်ခုကို ဝမ်းသာအားရ တွေ့လိုက်ရပါတော့သည်။

“ဟော့ကောင် ဟိုမှာတွေ့ပြီး လင့်စင်တစ်ခု မဟုတ်လား”

“အင်း ဟုတ်မယ်ကွ”

ကျော်ကျော်သည် ဖာ့ဇလီလက်ကို ဆွဲကာ ဝမ်းသာအားရ ပြေးသွားလိုက်ပါတော့သည်။ လင့်စင်သည် အပင်ကြီးတစ်ခု၏ အပေါ်တွင်ရှိနေပါတော့သည်။ ကြည့်ရသည်က တောမုဆိုးများ ဆောက်လုပ်ထားသည့် လင့်စင်ဖြစ်ပေမည် အဝေးကကြည့်လျှင် တော်ရုံမြင်နိုင်မည့်အနေအထား မဟုတ်ချေ။ သစ်ပင်ကြီးက တော်တော်ကို အုပ်ဆိုင်းနေသည်ဖြစ်သည်။ ခိုင်ခိုင်ခန့်ခန့် ဆောက်လုပ်ထားသည့် ပုံကလည်းနှစ်ရှည်လများ အသုံးပြုရန်အတွက်လည်း ဖြစ်ပေမည်။ ကျော်ကျော်အပင်ပေါ်သို့ မျောက်တစ်ကောင်သဖွယ် တက်လိုက်ပါတော့သည်။ ဖာ့ဇလီမှာတော့ သစ်ပင်အောက်ကနေပြီး မည်သည့်နေရာက တက်ရမည်မသိဘဲ ပတ်လည်ရိုက်ကာ ပင်စည်တွင် တစ်ပတ်လည် ရိုက်နေတော့သည်။

"ဟော့ကောင်လာလေ"

"ငါဘယ်လို တက်ရမှန်းမသိလို့"

"ဟာကွာ အပေါ်ကိုင်ကိုဆွဲ ပြီးရင် အားပြုပြီတက်လိုက်"

"မတက်တတ်ဘူး"

ထိုနောက် ကျော်ကျော် အောက်ပြန်ဆင်းကာ ဖာ့ဇလီ ကိုနောက်ကနေပြီး တွန်းတင်ရပြန်တော့သည်။ တော်တော် ခက်ခက်ခဲခဲကို တက်လိုက်

ရပါတော့သည်။ နောက်ဆုံးတော့ နှစ်ယောက်သား အပေါ်သို့ လွတ်လွတ်ကျွတ်ကျွတ် ရောက်သွားတော့သည်။ ဖာ့ဇလီမှာ ရောက်ရောက်ချင်း လင့်စင်ကြမ်းပြင်ပေါ်သို့ ခြေပစ်လက်ပစ် လှဲချလိုက်ပါတော့သည်။

"ဟော့ကောင် ရေဆိုတွေနဲ့မအိပ်နဲ့ အဝတ်တွေ ချွတ်လိုက်အုံး နေမကောင်းဖြစ်သွားရင်ပိုဆိုးမယ်"

"အင်း"

ကျော်ကျော် ယူလာသည့် ကျောပိုးအိတ်ထဲမှ အဝတ်တွေကလဲ နည်းနည်းစိုနေသည်။ သို့ပေမယ့် ဝတ်လို့ရသည့် အနေအထားမို့ ထိုအရာများသာ သုံးလိုက်ရသည်။ ကျော်ကျော်ပါလာသည့် ကျော်ပိုးအိတ်ထဲမှ အဝတ် နှစ်ထည်လည်း ရေများရွှဲလို့နေပါတော့သည်။

ဖာ့ဇလီ အဝတ်တွေလဲနေတုံး ကျောကျော် လင့်စင်ထဲတွင် လျှောက်ကြည့်နေမိသည်။ လင့်စင်လေးသည် ပေ ၁၀ ဝန်ကျင်ကျယ်ဝန်းပြီး သန့်သန့်ရပ်ရပ် ရှိပါသည်။ သေတ္တာ တစ်လုံးတွေ့သဖြင့် ဖွင့်ကြည့်လိုက်တော့ စောင်နှစ်ထည်နှင့် ခြင်ထောင် တစ်ခုကိုတွေ့လိုက်ရပါတော့သည်။ ကျော်ကျော်တို့အတွက် အဆင်ပြေသွားသည်။ ကျော်ကျော် စောင်ကို ဖာ့ဇလီအား ပစ်ပေးရင်း လှည့်ကြည့်လိုက်တော့ ကိုယ်တော်ချောက

တုံးလုံးကြီး၊ ကျော်ကျော် အနေဖြင့် သူစိမ်းယောကျ်ားကို ဝတ်စလစ်ဖြင့် အပြင်တွင် ပထမဦးဆုံးတွေ့လိုက်ရ၍ လန့်ပင်လန့်သွားသည်။

"ဟင်......"

"ဘာတုံး"

"ရှက်လည်း ရှက်ဘူး"

"ဟာကွာ မင်းပဲအဝတ်တွေ ချွတ်ဆို"

"အေးပါ ...အဲမှာ ဆောင်လေတော့ ပတ်ထားအုံး"

"အင်း..."

ဖော့ဇလီ မျက်နာလည်း ရဲတွတ် နေပါသည်။ သူဆောင်ကို ပတ်ထား လိုက်တော့မှ ကျော်ကျော်လည်း ဆောင်ဖြင့်ပတ်ကာ အဝတ်စားများကို ချွတ်လိုက်ပါတော့သည်။

"မင်းက လူလည်ပဲ"

"အံမယ် ဘာဖြစ်လို့လဲ"

"မင်းကျတော့ ငါ့ကြည့်ပြီး"

"တော်စမ်းပါ မဟုတ်တာတွေ တွေးမနေနဲ့ နားနားနေနေ အိပ်တော့"

“အင်းပါ”

ကျော်ကျော် လည်းလှဲချလိုက်ပါတော့သည်။ လှဲချလိုက်ပြီး အသက်ကို ပြင်းပြင်းရှူကာ အနား ယူပစ်လိုက် တော့သည်။ လူက ပင်းပန်းနေသည့် အတွက် စကားပင်မပြောတော့ဘဲ နှစ်ယောက်သား ညိမ်ညိမ်လေး နေလိုက် ကြတော့သည်။

ဘယ်အချိန်က အိပ်ပျော်သွားသည်မသိသော် ကျော်ကျော် ညည်းသံလိုလို ကြားလိုက်သဖြင့် လန့်နိုး လာခဲ့တော့သည်။ ခြင်များကလည်း လူကို သယ်ဆောင်သွားမည်လား အောက်မေ့ရအောင် တစ်ဝီဝီလည်း ရှိလှ ပါသည်။

ခြင်များကြောင့်လည်း နိုးလာတာဖြစ်ပါမည်။ ကျော်ကျော်မှာ ဖဲ့ဇလီ ကို အနားတိုးက ကြည့်လိုက်တော့ ညည်းသံက ဖဲ့ဇလီဆီက ထွက်လာတာ ဖြစ်ပါသည်။ တော်တော်ချမ်းနေပုံလည်း ရသည်။ စောင်ဖြင့် ကွေးကာ နေသည်မှာ ပုဇွန်တုတ်လား ထင်မှတ်ရအောင် ဒူးနှင့် နှဖူး တိုက်နေပါ တော့သည်။ ကျော်ကျော်မှာ ဖဲ့ဇလီ၏ နှဖူးစမ်းလိုက်တော့

“ဟာသွားပြီး ဒီကောင်တော့ ဖျားနေပြီ”

အပြင်ကို ကြည့်လိုက်တော့လည်း မှောင်နေပြီး၊ အမှောင်ထဲတွင် စမ်းတဝါးဝါး နှင့် ခြင်ထောင်ကို ထောင်လိုက်ပြီး ဖဲ့ဇလီကို ဆောင်နှစ်

ထည့်ထပ်ကာ ခြုံပေးလိုက်ပါတော့သည်။ ဖော့ဇလီမှာ ချမ်းလို့ တုန်များတောင် နေသည်။ ထိုကြောင့် အပေါ်ကနေပြီး ဖော့ဇလီကိုဖက်ကာ အချမ်းသက်သာစေရန်အတွက် တက်သမျှလေ လုပ်ပေးမိသည်။ ဖော့ဇလီမှာ ကျော်ကျော်လက်ကို ပင်ဆွဲလိုက်ပြီးသူ၏ ရင်ဘက်ထဲ ထည့်လိုက်သည်။ ကျော်ကျော်လန့်ကာ ရှန်းမိတော့မည့် အနေထားဖြစ်သွားသည်။

ဖော့ဇလီမှာတော့ မျက်လုံးပင်မဖွင့်ပဲ တုန်လို့ပင်နေတော့သည်။ ကျော်ကျော် ခေါင်းများကြီးကာ ချွေးပင် ပျံလာတော့သည်။ ကျော်ကျော်၏ ရင်ထဲတွင် ကုလားဆိုင်းတီးက ခုန်ပေါက်နေတော့သည်။ ကျော်ကျော်မည်သို့လုပ်ရမည်နည်း၊ တိတ်ဆိတ်သော အချိန်တွင် သူ့အား ဖက်ထားရမည်လား သို့မဟုတ် ဒီအတိုင်း ထားရမည်လား။

ဒီအချိန်ဒီအခါသည် ကျော်ကျော် အနေနှင့် ဖော့ဇလီကိုကူညီနိုင်မည့် အခြေအနေသည် ကိုယ်ငွေ့ပေးရမည်သာ ဖြစ်ပါသည်။ ကျော်ကျော် ဘာမှမစဉ်းစားတော့ပဲ ဆောင်နှစ်ထည် အတွင်းထဲသို့ ဝင်လိုက်ပြီး ဖော့ဇလီကို ဖက်လိုက်ပါတော့သည်။ ကျော်ကျော် အနေနှင့်တော့ ဆောင်ထဲဝင်တုံးက ဘာစိတ်မှမရှိပေမယ့် ဖော့ဇလီကို ဖက်ထားလိုက်တော့ ကျော်ကျော်မှာ မောဟိုက် နေတော့သည်။ ကျော်ကျော် ရော ဖော့ဇလီမှာတော့ မိမွေး ဖမွေးတိုင်း ရှိနေကြပါတော့သည်။ ကျော်ကျော်သည် ဖော့ဇလီကို နောက်ကျောက ဖက်ထားရင်းက ဖော့ဇလီ၏

လည်ပင်များကို နုတ်ခမ်းများက ခလုတ်တိုက်နေသည်။ ဖာ့ဇလီ၏ နောက်က ကွေးကွေးလေးဖြင့် ကျော်ကျော် ဖက်ထားသည့် အနေထားက.......

ဖာ့ဇလီက ကျော်ကျော်ဘက်သို့ လှည့်လိုက်သည်။ ကျော်ကျော်၏ နှာဝမှ ထွက်လာသော လေနုက ဖာ့ဇလီ မျက်နှာသို့ တိုက်ကာက လူနေတော့ သည်။ ထိုအခါမှာတော့ ဖာဇလီမှာလည်း ကျော်ကျော်ရင်ခွင်ထဲ ပို၍ တိုးဝင်ကာ ဖက်ထားလိုက်သည်။

လောကကြီးသည် တိတ်ဆိတ်နေသည်။ ပန်းတွေလည်း လန်းနေသည်။

လေညှင်းလေတွေလည်း ကလူးနေသည်။ တောပန်းလေးတွေလည်း မွှေးနေသည်။

ပုဇင်းရင်ကွဲလေးများက သံဇဉ်များ ဆိုနေကြသည်။ သူတို့နှစ်ယောက်ရဲ့ ရင်ခုန်သံများကလည်း ဆွဲမက်စွာ ပေါ်ထွက်နေသည်။

ကျော်ကျော် ရင်ထဲတွင်တော့ မုန်းတိုင်းငယ်လေ တိုက်ခတ်နေသည်။ မုန်းတိုင်းငယ်လေး အတွင်းထဲတွင်တော့ ပန်းရနံ့များကို သယ်ဆောင် လာသည်။ လေညှင်းလေးများကလည်း ကျော်ကျော်ကို မိုးကောင်းကင် ပေါ်သို့ ခေါ်ဆောင်သွားလေသည်။ ရင်ထဲတွင် နှိမ့်ချည်မြင့်ချည် ရင်ခုန်

လှိုက်မောကာ မျောပါသွားလေသည်။ ဖာ့ဇလီမှာ ချမ်းတာတွေ မရှိတော့ နွေးထွေးသော ရင်ခွင်တစ်ခုကို သူပိုင်ဆိုင်နေရသည်။

ကျော်ကျော်သည် ဖာ့ဇလီက သူဘက်ကို လှည့်လိုက်တော့ မျက်စိကို အတင်းမှိတ်လိုက်ကာ ငြိမ်လိုက်တော့သည်။ သူ့၏ ရင်ထဲတွင် ကုလားပွဲတော် ကျင်းပသလို ဗုံသံများ မျည်းဟီနေတော့သည်။ ကျော်ကျော် မျက်လုံးကို အသာဖွင့်ကြည့်လိုက်တော့၊

"အို....."

ဖာ့ဇလီ သူ့ကို ကြည့်နေသော အကြည့်များကို ရုတ်တရက်တွေ့လိုက်သဖြင့် နည်းနည်းတော့ လန့်သွားသည်။ ဖာ့ဇလီ၏ မျက်ဝန်းများသည် အရည်များ ရွှင်ရွှင်စာစာဖြင့် သူ့အားကြည့်နေသည်ကို တွေ့လိုက်ရတော့ ကျော်ကျော်မှာ နေမထိထိုင်မသာလိုမျိုး ခံစားမှုများ ဖြစ်ပေါ်သွားတော့သည်။

"ဟိုလေ...ဟို..ကွာ... ဘယ်လိုပြောမလည်း.... အင်း... မင်း ချမ်းနေလို့လေ... အဲ့ဒါနဲ့...အဲ့ဒါကြောင့်... မင်းကိုဖက်ထားပြီး.. အချမ်းပြေ... အောင်....ဟို..အု"

ကျော်ကျော် စကားဆုံးအောင်မပြောလိုက်ရ၊ အဘယ်ကြောင့်ဆိုသော် ဖာ့ဇလီ၏ နှုတ်ခမ်းတစ်စုံက ကျော်ကျော်ပြောမည့် စကားများကို

ပိတ်လိုက်သောကြောင့် ဖြစ်ပါသည်။ သူ့၏ အနမ်းများသည် ကြမ်းတမ်းလှသည်။ သို့ပေမယ့် ကျော်ကျော် ကြိုက်ပါသည်။ ထိုအနမ်းတစ်စုံ လွတ်ထွက်သွားမှာကိုလည်း ကြောက်လှပါသည်။ သူတို့ နှစ်ယောက် ဖက်ထားသည့် ကြားထဲတွင် လေပြေလေးတွေတောင် ဝင်တိုးလို့မရတော့၊ ပန်းစကားများလည်း မဆိုတော့၊ အသိနှစ်ခု၏ နားလည်မှုအောက်သို့ နှစ်ယောက်သား ပျော်ဝင်သွားသည်။ နှလုံးသား၏ ခေါ်ဆောင်မှုနောက်သို့ သူတို့ နှစ်ယောက် ကောက်ကောက်ပါအောင် စီးဝင်သွားတော့သည်။

မည်သူမှ ထိုဖြစ်ပေါ်လာတဲ့ အနက်အဓိပ္ပါယ်ကို မဖော်ချင်ကြတော့၊ ရှိနေသည့် အနေထားတွင် သူ့တို့၏စိတ်ထဲတွင်တော့ ဇော့များကပ်ကာ ဘာမှမသိတော့၊ ပတ်ဝန်းကျင်ကလည်း တိတ်ဆိတ်စွာ သူ့တို့၏ ပျော်ဝင်မှုကို အားပေးအားမြှောက် ပြုနေပါတော့သည်။

ကျော်ကျော်၏ အတွေးထဲတွင် နှင်းနွဲ့သည်လည်း မရှိတော့၊ ခင်ခဲ့ဖူးသော သူငယ်ချင်းများသည်လည်း မရှိတော့၊ ဖော့ဇလီ တစ်ဦးတည်းသာ အတွေးထဲ ပေါ်နေပါတော့သည်။

“ကြောင်ကြောင်”

လေတိုးသော အသံဖြင့်သာ ဖော့ဇလီခေါ်လာပါသည်။ ထိုအသံတိုင်း ကျော်ကျော်ကလည်း

"အင်း"

"ငါ့ကိုအထင်သေးလာ..."

"ဟင်...."

ကျော်ကျော် ဘာပြန်ပြောရမှန်းမသိတော့၊ ဖှာ့ဇလီအမေးသည် ဘာကို ဆိုလိုသည်ကို ကျော်ကျော် သဘောပေါက်ပါသည်။ သို့ပေမယ့် ပြန်ဖြေရမည့် အဖြေသည် လွယ်လွယ်ကူကူ မထွက်လာချေ။ ကျော်ကျော် အဖြေသည် ဖှာ့ဇလီကို မထိခိုက်စေပေမယ့် စော်ကားစေမည့် စကား အနေထားမျိုး မဖြစ်အောင် ပြောရမည် မဟုတ်လား။ ဖှာ့ဇလီကို ကျော်ကျော် ရင်ထဲအတင်းဖက်ထားလိုက်ပြီး

"ငါကဘာလို့ အထင်သေးရမှာလဲ ဖားဇလီးရယ်... မင်းရဲ့ စကားတွေက ငါ့နှလုံးသားကို ညှစ်လိုက်သလိုပဲ"

ဖှာ့ဇလီ ပြန်မဖြေပဲ ငြိမ်သက်နေသည်။

"ငါတို့ဟာ ယောကျာ်းတွေ ဖြစ်နေပါတယ် သို့ပေမယ့် မချစ်ပါနဲ့ လို့တော့ တားလို့မှမရတာ....အချစ်ဆိုတာ လုပ်ယူလို့ မရဘူး ရင်ခွင်ထဲက လာတဲ့အမှန်တရားပဲလေ... ငါမှာမင်းကိုချစ်တာကို ဘာကြောင့်လည်းလို့တော့ မမေးပါနဲ့ကွာ ငါ့မှာအဖြေမရှိဘူး သို့ပေမယ့် ရင်ခုန်သံကြောင့် မင်းကိုချစ်တာ အဲ့ဒီအချစ်က အမှား

ဆိုရင်လေ ငါဒီအမှားကို ဖက်တွဲထားမယ် မပြုပြင်ချင်တော့ဘူး၊ ကြုံရတဲ့ဘဝ တစ်ခုမှာ အချစ်က တစ်ခါတစ်ရံ မှားယွင်းတတ်ကြတယ်၊ အဲဒီအမှားအယွင်းကို ငါတစ်သက်လုံး ဖမ်းဆုပ်ထားချင်တယ်၊ မင်းလက်ခံမယ်ဆိုရင်ပေါ့"

ဖာ့ဇလီ စကားကြောင့် ကျော်ကျော် ဖက်ထားသော နေရာမှ နောက်သို့ ဆုတ်လိုက်ပြီး။

"ငါ့မှာလေ ငါ့ရဲ့ခံစားမှု့ ကိုငါနားမလည်နိုင်အောင်ကို ငါ့ကိုယ်ငါ့ထက် မင်းအတွက် စိုးရိမ်းကြောင့်ကြမှုက ပိုများနေတယ် ဆိုတာကို ယုံမလား ဖာ့ဇလီး"

ဖာ့ဇလီမှာတော့ ကျော်ကျော်အပြောမှာ ရင်ထဲကြည်နူးမှု့တွေ စီးဝင်သွားတော့သည်။

"ကျော်ကျော်ရယ် ငါလည်းပဲ မင်းလိုပါပဲ ဓားပြတွေ လက်ထဲမှာ ရောက်လာတော့ ကျန်တဲ့သူငယ်ချင်းတွေထက် မင်းကိုပိုလို့ စိုးရိမ်းခဲ့တယ်၊ မင်းက ငါနဲ့ပါတ်သက်ပြီး ရောက်လာတဲ့လူလေ၊ ငါ့ကြောင့် မင်းအချောင်ပါလာရတာ၊ ဒါကြောင့် ငါကဓားပြတွေ လက်ထဲမှာ မင်းကိုတောင်းပန်ပြီး ဘာမှမလုပ်ရဘူးလို့ တောင်းဆိုခဲ့တယ်၊ ငါ့ရဲ့စိုးရိမ်မှုတွေဟာ ပိုလို့တောင် တိုးလာခဲ့တယ်

နောက်ရက်ကျရင် ငါ့ကို သူတို့တွေသတ်တော့မယ် ဆိုတာကိုလည်း ငါသိနေခဲ့တယ်၊ ငါ့ကိုသတ်ခဲ့ရင်တောင် မင်းကိုလွှတ်ပေးရန် အတွက် အကြိမ်ကြိမ် တောင်းဆိုခဲ့ရတယ်၊ ဒါတွေဟာ ငါ့စိတ်ထဲက ဖြစ်လာတဲ့ ရိုးသားစွာမင်းကို ခင်တွယ်သံယောဇဉ် ရှိခဲ့တာကိုပါ၊ ဒီအထိအောင်တော့ ငါမထင်ထားခဲ့ဘူး၊ ဖြစ်မယ်လို့လည်း မတွေးမိဘူးလေ၊ ဒါတွေကြောင့်လည်း ငါ့ကိုအထင်မသေးပါနဲ့လို့ တောင်းဆိုချင်တာပါ"

"အော်...ဖားဇလီးရယ်"

ကျော်ကျော် မျက်ရည်များပင် ဝိုင်းသွားသည်။ ကျော်ကျော်ရင်ထဲတွင် မိမိကိုအထူးဂရုစိုက်တဲ့ သူတစ်ယောက်တော့ ရှိပါသေးလား အသိက ပိုလို့ပင် ဝမ်းမြောက်ကာ ကြည်နူးမိပါသည်။ အမှန်တိုင် ဝန်ခံရလျှင် ကျော်ကျော် တစ်ယောက်တည်း ပထမဦးစွာ လွတ်မြောက်ရန် ကြိုးစားခဲ့တုန်းက ဖာ့ဇလီကို ထည့်မစဉ်းစားမိပါ၊ မိမိလွတ်ရန်သာ အရင်ကြိုးပမ်းခဲ့သည်၊ ပြီးမှ ဖာ့ဇလီကို သတိကိုရပြီး ပြန်ကြိုးစားခဲ့သည် မဟုတ်လား။ ထိုအရာသည် သူ့အားရှက်မိစေသည်။ ဖာ့ဇလီကတော့ ထိုသို့မဟုတ်ခဲ့ သူ့အတွက် ပထမဦးဆုံး ဦးစားပေးခဲ့သည်။ သို့ပေမယ့် ဖာ့ဇလီ ကိုဒီအကြောင်းတော့ ပေးမသိစေချင်ပါ။

"မင်းချမ်းသေးလား"

"ဟင့်အင်း မချမ်းတော့ဘူး"

"ဒါဆို ငါမဖက်တော့ဘူးလေ"

"အာ...ကွာ...အဲလိုတော့မဟုတ်ဘူးလေ...မင်းဖတ်ထားမှ အချမ်းပြေမှာပေါ့"

"အဟီး...ငါလည်းဖတ်ထားချင်တာပါပဲ...ဒါပေမယ့် ရှက်တယ်ကွ"

"အာ... ငါလည်းရှက်တာပဲ.. ဒါပေမယ့်.. ဒီအတိုင်းပဲနေပါ... ငါကြိုက်လို့ပါ"

ကျော်ကျော် ဖာ့ဇလီကို တိုးလို့ပင် ဖက်ထားလိုက်သည်။ ရင်ထဲအချစ်များ ကလည်း တိုးလို့ပင်သွားတော့သည်။

နှစ်ယောက်သား ရှက်မိသည့် အရှက်များလည်း ရှက်ရောပြီး ရီမိကြတော့ သည်။ ချစ်သူလေလား၊ နားလည်မှုတွေလား၊ သံယောဇဉ်တွေလား၊ မပြောပြတတ်တော့ပါ။ ရင်ထဲမှာ ကြည်နူးနေမိတာဟာ တိုးလို့ပင် ပျော်ရွှင်နေမိသည်။ ပတ်ဝန်းကျင် ကိုလည်းမေ့နေလေပြီး၊ လောကကြီးမှာ သူတို့နှစ်ယောက်တည်း ရှိနေသည့်အလာ.... ပန်းခင်းကြီးထဲ သူတို့ နှစ်ယောက် ဖြတ်သန်းနေကြပြီး ဖြစ်သည်။

ပန်းတွေဝေနေသည်။ တောလမ်းလေးက သာယာနေသည်။ ဘေးလမ်းနှစ်ဘက်ဆီမှာလည်း ပန်းများပွင့်ကာ လှပနေသည်။ လိပ်ပြာလေးများကလဲ ပန်းလေးတစ်လျှောက်မှာ လှပစွာဝဲပျံနေကြသည်။ ကျော်ကျော်၏ ရင်ခွင်ထဲတွင်လည်း လိပ်ပြာလေးများ ဝဲပျံ ခုန်ပေါက်နေသည်။ ရှုမငြီးတဲ့ မြင်ကွင်းလေမှာ ကျော်ကျော် ပျော်ရွှင်စွာ လျှောက်လှမ်းနေသည်။ ဟိုးအဝေးတစ်နေရာမှ ဖာ့ဇလီက လက်လှမ်းပြကာ ကျော်ကျော်ကို လှမ်းခေါ်သည်။ ကျော်ကျော် ဖာ့ဇလီ ဆီသို့ ပြေးသွားတော့သည်။ ဖာ့ဇလီကလည်း ကျော်ကျော်ကို လက်ယက်ခေါ်ကာ မြန်မြန်လာရန် ပြောနေသည်။ ဖာ့ဇလီ အနားသို့ အရောက်မှာ ကျော်ကျော် ဖာ့ဇလီ လှမ်းသောလက်ကို လှမ်းဆွဲရန် ရွယ်လိုက်ချိန်၊ ကျော်ကျော်၏ အခြား လက်တစ်ဘက်ကို စောင့်ဆွဲခံလိုက်၍ ကျော်ကျော် ဖာ့ဇလီ လက်ကိုဆွဲသောလက်မှာ လက်ဟန်ပြောင်းသွားပြီး မမိလိုက်တော့၊ ကျော်ကျော် ဝမ်းနည်းသွားသည်။ ထိုကြောင့် ကျော်ကျော်အား စောင့်ဆွဲလိုက်သောတစ်ဘက်လူကို ဒေါသဖြင့်ဖြင့် လှည့်ကြည့်လိုက်တော့ မိမိအား ဝမ်းနည်းစွာ ၊ ဒေါသကြီးစွာ ၊ မျက်ရည်များဖြင့်ကြည့်နေသော နှင်းနွဲ့....

"နှင်းနွဲ့....."

"အေး ငါပဲ... နင်က ငါမဟုတ်တဲ့ တစ်ခြားတစ်ယောက်အပေါ် တွယ်တာနေ တယ်ပေါ့လေ"

“ဟင်.....”

ကျော်ကျော် ဘာပြောရမှန်းမသိတော့။

“နင်.. ငါ့ကိုမေ့နေတယ်ပေါ့လေ... ငါ့မှာတော့ နင့်ကို သတိရလိုက်ရတာ”

ကျော်ကျော် ရင်ထဲမှာ ဘာကိုဝမ်းနည်းသွားသည် မသိတော့၊ ဘာကိုပြောရမှန်းလဲ မသိတော့၊ ထိုကြောင့် ဖုဇလီရှိသည့်ဘက်သို့ လှည့်ကြည့်လိုက်ရန် ကိုယ်ကို ရွှေ့လိုက်ချိန်မှာ နှင်းနွဲ့က ပြန်ဆွဲထားပြီး ကျော်ကျော် ကိုလှည့်ကြည့်ခွင့် မပေးချေ။

“နင်ငါ့ကိုချစ်တယ်ဆို တစ်ခြားတစ်ယောက်ကို ငါရှိနေရဲ့နဲ့ နင်က မဖြတ်နိုင်ဘူးပေါ့လေ”

ကျော်ကျော် ဘာမှပြန်မပြော နှင်းနွဲ့လက်ကလွတ်ရန် သူရုန်းနေပါတော့သည်။ ပြန်ပြောရန် စကားလုံးများလဲ ရှာလို့မရချေ။

“ကျော်ကျော် နင့်ကိုငါလွမ်းနေတာဆိုတာ နင်မသိဘူးလာ နင်က ငါ့အတွက် မရှိမဖြစ်ပါ နင် သူ့ဆီမသွားနဲ့တော့ နင့်ကို ငါ ခွင့်မပြုတော့ဘူး”

“လွှတ် ..ငါ့ကိုလွှတ်”

“မလွှတ်ဘူး နင့်ကိုတသက်လုံး မလွှတ်တော့ဘူး ဒီအတိုင်းလဲ မထားတော့ဘူး နင့်ကငါ့အတွက်ပဲဖြစ်ရမယ်”

“မရဘူး လွှတ်....လွှတ်.. ငါနင့်ကိုမေ့လိုက်ပြီး နင်လဲငါ့ကို မေ့လိုက်တော့”

“ဘာ................ နင်မေ့ခိုင်းတိုင်း ငါကမေ့ရမှာလား..... ဒီမှာ နင်က ဒီလိုပြောလို့ ရမှာလား.... နင့်မှာပြောပိုင်ခွင့်မရှိဘူး”

“ရှိတယ်..ရှိတယ်...နင်တောင် ငါမဟုတ်တဲ့ တစ်ခြားတစ်ယောက်ကို ချစ်သေးတာ ငါလဲ..”

“တော်........ဒီမှာတွေ့လာ ...ခါး.....”

နှင်းနွဲ့ မှာကြောက်စရာ ကောင်းလှအောင် မျက်ဝန်းများက ဒေါသ အကြည့်များဖြင့် နီရဲလို့နေပါသည်။

“နင်....နင်...ဘာလုပ်မလို့လဲ”

“အေး...နင့်အသည်းကို ခွဲမလို့...”

“ဟင်....”

ကျော်ကျော် မျက်လုံးများ ဝိုင်းစက်သွားတော့သည်။ နှင်းနွဲ့သည် ဒေါသ တစ်ကြီးဖြင့် ဓါးကို ရွယ်ပြီး ကျော်ကျော် ဘေးသို့ မည်သည့်အချိန်က

လာရပ်နေသော ဖာ့ဇလီ၏ ရင်ဝရှိ နှလုံးသားတည့်တည့်သို့ ထိုးထည့်လိုက်တော့သည်။

ဖာ့ဇလီမှာ ကျော်ကျော်ကို ပြုံးကာကြည့်ပြီး ခွေလဲကျသွားတော့သည်။ နှင်းနွဲ့မှာ အားရဝမ်းသာ ရယ်မောနေတော့သည်။

"ဟား...ဟား......တွေ့လာ နင့်အသည်းကို ငါသတ်လိုက်ပြီး နင်က ဘယ်တော့မှ ငါ့ကို မချစ်လို့ရတော့ဘူး ...ဟား...ဟား..."

ကျော်ကျော် ရင်ထဲ ဆို့တက်ကာ ဝမ်းနည်းလို့ သွားတော့သည်။ ကျော်ကျော် ဖာ့ဇလီထံသို့ ပြေးသွားကာ ပွေ့ဖက်ထားရင်.... အားကုန် အော်လိုက်ပါတော့သည်။

"ဖား........ဇ...........လီး............"

ဝုန်း..

ဒုန်း..

ဂလွမ်.....

ဒေါင်.....

ဝုန်း...ဆိုသော အသံသည် ကျော်ကျော်အော်လိုက်သော အသံကြောင့် ဖာ့ဇလီ လန့်ကာ ခုန်လိုက်ပြီး နံရံနှင့် သွားဆောင့်သည်။

ဒုန်း...ဆိုသော အသံကတော့ ထုတ်တန်မှ ဖာ့ဇလီ တိုက်လိုက်သော နံရံတုန်ခါမှုကြောင့် အောက်သို့ကျသည့်အသံ ဖြစ်ပါသည်။

ဂလွမ်.. ဆိုသော အသံကတော့ ထုတ်တန် နှင့်အတူ အိုးခွက် ပန်းကန် တွေပါ ရောကျလာပြီး

ဒေါင်... ဆိုတာကတော့ ကျော်ကျော် နှဖူးပေါ်သို့ ဒန်အိုးဖင်နှင့် မိတ်ဆက်သံပင်ဖြစ်ပါတော့သည်။

“ကြောင်ကြောင်.....ကြောင်ကြောင်”

ဖာ့ဇလီ မှာနံရံတွင်ကပ်ကာ ကျော်ကျော်အား ကြောက်လန့်တကြား အော်ခေါ်နေသည်။ ကျော်ကျော် အခုမှ တကယ်ကြောင်သွားသည်။ သူပြန်စဉ်းစားသည် နောက်ဝုန်းကနဲထကာ ဖာ့ဇလီ ထံပြေးကာသွားပြီး ဖာ့ဇလီ ရင်ဘက်ကို ပွတ်ကြည့်လိုက်သည်။ ဘာဒါဏ်ရာမှ မရှိချေ။ ထိုသို့ဆိုလျှင် သူအိမ်မက် မက်နေတာပေါ့။

“ဟူး ..တော်ပါသေးရဲ့...”

“ဘာ...ဘာဖြစ်တာလဲ ”

“အဟီး...အိမ်မက် မက်တာ”

"ဟာကွာ... အဲလောက်တောင် အော်ရလားဟ... ငါ့မှာလန့်သွားတာပဲ... နေပါအုံး... ဘာအိမ်မက်ဖြစ်လို့ ငါ့နာမည်ကိုခေါ် ပြီး အော်ရတာလဲ"

"အဟီး....မင်းကို လူတစ်ယောက်က ဓါးနဲ့ထိုးလိုက်တယ်လို့ မက်လို့... ဒါကြောင့်ပါ"

"အော်...ငါ့ကို သေခိုင်းနေတယ်ပေါ့လေ"

"ဟာ...ကွာ... မင်းကိုငါမသေခိုင်းရက်ပါဘူး... မင်းအဲလိုဖြစ်သွားလို့ ငါကြောက်ပြီး အော်လိုက်တာပါကွာ"

ထိုအခါမှ ဖူ့ဇလီ ပြုံးသွားကာ

"ငါကစတာပါ....အဟဲ...ဟိုဘက်လှည့်ပြီးထိုင်ကွာ"

"ဘာဖြစ်လို့လဲ"

"မင်းညီလေးက ငါ့ကို ခေါင်းညိတ်ပြနေလို့"

"ဟာ...."

ကျော်ကျော် ရှက်သွားသည်။ ဖူ့ဇလီ ကိုကြည့်လိုက်တော့ ဖူ့ဇလီ လည်း ထိုနည်းပင် သို့သော် သူ့လိုတော့မဟုတ် လက်ဖြင့် အုပ်ထားသည်။

“မင်းလဲဘာထူးလဲ အတူတူပဲကို…”

“မင်းနော် ငါ့ကိုအဲလိုမကြည့်နဲ့ ငါရှက်တယ်”

“ဘာခုမှ ရှက်တာလဲ…ညကတော့..ဟင်…”

“ဟာတော်ကွာ…တော်…”

“မတော်ပါဘူး….ပြောမှာပဲ…”

ဖုဇလီ ကျော်ကျော် ကိုခုန်အုပ်လိုက်ပြီး နှစ်ယောက်သား…………… အချိန်အတန်ကြာ တိတ်ဆိတ်သွားပြီးနောက်…….

“ငါ့ကိုချစ်လာ…”

“ဟာ…စောသေးတယ် နောက် နှစ်မှ မေးပါ့လားကွ”

“အဟဲ…သိချင်လို့ပါကွာ”

“ချစ်တာပေါ့…ငါ့မင်းကိုဘာကြောင့်ချစ်တယ် ဆိုတာ ငါလဲမသိဘူး ဒါပေမဲ့ ချစ်တယ်”

“အင်းပါ ငါလဲသိပါတယ်..ငါလဲမင်းကိုချစ်တယ်…”

ကျော်ကျော် ဖုဇလီ ကိုဖက်ထားရာကာ နေပြီး အတူတူ လှဲကာ နေကြပါသည်။

အချိန်တွေက လည်း မနက် ၉နာရီ ဝန်ကျင်သို့ရောက်ရှိ လာသည် တွင်တော့ သူတို့အိပ်ယာထဲ မနုပ်ကြတော့ဘဲ ညက ချွတ်ထားသည့် အဝတ်များကို ပြန်ဝတ်ကြပြီး ခရီးကို...ရှေ့သို့ ဆက်ခဲ့ကြပါတော့သည်။

"တော်သေတယ် အဝတ်တွေ ခြောက်သွားလို့"

"မင်းအဖျားသက်သာသွားတော့ ဟုတ်ပါတယ်နော်"

"အင်း သက်သာပါတယ်"

"ဒါဆို သွားကြစို့"

လမ်းတွင် ပုန်လျှိုကာ သွားကြပေမယ့် အရင်လိုမဟုတ်တော့ နှစ်ယောက်သား နမ်းလိုက် စလိုက် ပြောင်လိုက်နှင့် ခရီးဆက်ခဲ့ကြပါတော့သည်။

ဒီလိုဆိုတော့လည်း လောကကြီးက လှပနေလိုက်သည်မှာ ကျော်ကျော် မှာတော့ ဒုက္ခဟုမတွေးတော့ပဲ ချစ်သူနှင့် အတူ အပျော်ခရီး ထွက်လာခဲ့သလို ပျော်ရွှင်နေပါတော့သည်။

သူတို့လျှောက်လှမ်းခဲ့ကြပြီး အတော်ခရီးပေါက်ကြတော့

"ဟာ....ကြောင်ကြောင်.."

"ဟင်..ဘာတုံး"

“ဟိုမှာကြည့်စမ်း....အိမ်တစ်လုံးကွ”

“ဟုတ်တယ်....သွားရအောင် အကူညီတောင်းလို့ရတာပေါ့”

“အေး....လာ”

နှစ်ယောက်သား ကိုက် ၁၀၀ လောက် အဝေးက ရှိသော အိမ်ကြီးဆီ သို့ ဝမ်းသာ အားရ ပြေးခဲ့ပါတော့သည်။ အိမ်ကြီးသည် ခြံအကျယ်ကြီး ထဲတွင် တစ်ကိုယ်တည်း ရပ်တည်နေသလို ဘေးပတ်ဝန်ကျင်တွင်တော့ အိမ်များမတွေ့ရပါ၊ ထိုအိမ်တစ်လုံးတည်းရှိပါသည်။ ဒီဒေသရှိ လူအများစု ကတော့ အိမ်များကို မြေကျယ်ကျယ်ပုံစံမျိုးဖြင့် တည်ဆောက်ထား ပုံရသည်။

“အိမ်ရှင်တို့ အိမ်ရှင်တို့ခင်မျ”

“လူကောရှိရဲ့လာ...ဖားဇလီးရာ ဘာထူးသံမှလည်း မကြားရဘူး၊ အိမ်က ရှိနေတော့ ရွာတစ်ခုခုနဲ့ နီးနေပြီး ထင်တယ်နော်”

“အင်းငါလဲ အဲဒီလိုပဲထင်တာပဲ”

ကျော်ကျော်တို့ ထိုအိမ်လေးကို ပတ်ကြည့်လိုက်မိသည်။ အိမ်လေး၏ ခြံကတော့တော်တော်ကို ကျယ်ဝန်းလှပါသည်။ အိမ်ကြီးကလည်း ရွာတွေတွင် တွေ့ရသလို သစ်အိမ်ကြီး တစ်လုံးပင်ဖြစ်ပါတော့သည်။

အိမ်ကြီး၏ အနောက်ဘက်ခြမ်းမှ ဝင်လာကြသော ကျော်ကျော်တို့ အိမ်ကြီး၏ အရှေ့ဘက်သို့ သွားရန်ဟန်ပြင်လိုက်သည်။ ထိုအချိန်မှာ အိမ်ကြီး တံခါးဖွင့်လာပါတော့သည်။ အသက် ၅၀ ကျော် အဘွားတစ်ဦး ထွက်လာပါသည်။

"ဘာကိစ္စလဲကွယ့်"

"ဟို...ဟို..ကျွန်တော်တို့ ဒုက္ခရောက်လာလို့ ခဏလောက် ဝင်တည်းလို့ ရမလားခင်ဗျာ"

ကျော်ကျော်က ဖာ့ဇလီ လောက်မလေးစကား မကျွမ်းကျင်သဖြင့် ဘာမှ ဝင်မပြောပါ။ အိမ်ရှင်အဘွားသည် ကျော်ကျော်တို့ကို မျက်မှောင်ကုတ်ကာ ကြည့်ပြီး သေချာအကဲခက် နေပါတော့သည်။ အဘွား၏ အကြည့်များကို ကျော်ကျော်တို့ မနေတတ်အောင်ဖြစ်မိပါသည်။

"ဟိုအဘွားရယ် ဖုန်းလေးရှိရင်လည်းရပါတယ် ကျွန်တော်တို့ ဖုန်းခေါ်ရရင်လဲ တော်ပါပြီး"

"လာခဲ့ လာခဲ့ အိမ်ထဲရောက်မှ ပြောတာပေါ့ကွယ်"

ကျော်ကျော်တို့ အိမ်ထဲသို့ဝင်လိုက်ပါတော့သည်။ အိမ်ကြီးက တော်တော် ကျယ်ပါသည်။ နောက်ဘက်က မီးဖိုးချောင်ကို ဖြတ်ပြီး ဧည့်ခန်း မဟုတ်သော အခန်းတစ်ခန်းထဲသို့ ထိုင်စေပါသည်။

"ကဲကဲ ခဏနားကြကွယ်၊ မင်းတို့ တစ်ခုခု စားဖို့အတွက် အဘွား ပြင်ဆင်လိုက်အုံးမယ်"

"ရပါတယ် အဘွား အပန်းကြီးနေပါ့မယ်၊ ကျွန်တော်တို့ ခဏပဲ နားပါ့မယ်"

"ရပါတယ်ကွယ့် ဘာမှ အားမနာနဲ့ ခနနေအုံးနော်"

ထိုနောက် အိမ်ရှင်အဘွားသည် ပြန်ထွက်သွားပါတော့သည်။ ကျော်ကျော်တို့ ထိုအဘွားလုပ်သူအား ဧည့်သည်များ ဖြစ်သည့်အတွက် သူပေးခဲ့သော အခန်းထဲတွင် ထိုင်နေမိတော့သည်။ တစ်ယောက်နှင့် တစ်ယောက်လည်း ကြည့်နေရင်က..

"ငါစိတ်ထဲ တစ်မျိုးကြီးပဲ"

"ဘာဖြစ်လို့လဲ ကြောင်ကြောင်"

"မသိဘူး စိတ်ထဲမှာ ဘာကိုမသိုးမသန့်ဖြစ်နေတယ် မသိဘူး"

"အင်း...မင်းစိတ်ထင်လို့ဖြစ်မှာပါ"

"ဟုတ်မှာပါ"

"အင်း..အိမ်ကြီးကလည်း တစ်လုံးတည်း ဖြစ်နေလို့ မင်းကြောက်နေတာ ဖြစ်မှာပါ"

ကျော်ကျော် ဘာမှ ပြန်မပြောတော့ပါ၊ အဘယ့်ကြောင့်ဆိုသော် အခန်း တံခါးဖွင့်လာပြီး အိမ်ရှင်အဘွားသည် စားစရာများယူလာကာ ဝင်လာ ပါသည်။ သူ၏ နောက်မှာတော့ အိမ်ရှင်အဘွား၏ ခင်ပွန်းဖြင့်သူလည်း လိုက်ပါ လာသည်။

"စားကြကွဲ့ အဘွားပြင်ထားတာ"

"ဟာ...အားနာစရာအဘွားရယ် ရပါတယ် ကျွန်တော်တို့ မစားတော့ ပါဘူး ဖုန်းလေသာ ဆက်လို့ရရင်တော်ပါပြီး"

"အော်.. အဘွားတို့မှာက ဖုန်းမရှိဘူးကွယ့် မြေးတို့ ကြည့်ရတာ ပင်းပန်လာသလိုပဲ ဒါကြောင့်ဒါလေးစားပြီး အနားယူလိုက်နော် နောက်မှ မင်းတို့ အဘိုးကို မြို့ကိုတက်ပြီး လိုက်ပို့လိမ့်မယ်ကွယ့် သူက အဘွားရဲ့ယောကျ်ားပေါ့ကွယ်...."

"ဟာ.. ဝမ်းသာလိုက်တာ အဘွားရယ် ကျေးဇူးတောင် ဘယ်လို တင်ရမှန်း မသိဘူး၊ အဘွားတို့ ကျေးဇူးကို မမေ့ပါဘူး ကျွန်တော်တို့ အိမ်ပြန်ရောက်ရင် ကျေးဇူး ကောင်းကောင်း ဆပ်ပါမယ်"

"ရပါတယ်ကွယ်... ရပါတယ်... အဘွားတို့က ဒီတောထဲမှာ လာနေကြတာ ရွာနဲ့လည်းဝေးတယ် အဘွားတို့က စိတ်ငြိမ်ငြိမ်

နေချင်လို့တမင် လာနေကြတာကွယ့် ဒီဘက်ကလူတွေလည်း မလာကြဘူးလေ”

“ဟင် အဘွားတို့နှစ်ယောက်တည်းကို ဘယ်သူက ထောက်ပံ့ထား တာလဲ”

“သားပေါ့ကွယ်”

“သားဆိုးပေါ့ကွာ သူ့ကြောင့် လူတွေဝေးတဲ့ နေရာမှာနေရတာ”

“အဘိုးကြီး ရှင်တိတ်တိတ်နေစမ်း...”

အဘွားလုပ်သူက အော်ငေါက်လိုက်သဖြင့် အဘိုးသည် ဘာမှ မပြောတော့ဘဲ လက်မှကိုင်ထားသည့် ရေခွက်များကိုထားကာ ထွက်သွား တော့သည်။ ကျော်ကျော်တို့ပင် အဘွား ငေါက်သံ ကျယ်ကျယ်ကြောင့် နည်းနည်း လန့်သွားတော့သည်။

“စိတ်ထဲဘာမှ မထားကြနဲ့ကွယ့် ဒီလိုပဲ ဒီအဘိုးကြီးက စိတ်က နည်းနည်း မကောင်းဖြစ်နေတာ.. ကဲကဲ မြေးတို့စားလိုက်ကြ ရေလည်းချိုးမလား... ဟိုဘက်တစ်ခန်းကျော်က ရေချိုးခန်း လုပ်ထားတယ်”

“ဟုတ်ကဲ့ ကျေးဇူးတင်ပါတယ် အဘွား”

“ဒါနဲ့ငါမြေးတို့က ဘယ်က လာကြတာလဲ”

“ကျွန်တော်တို့က ကွာလာလမ်ပူက လာကြတာပါ လမ်းမှာ ဒုက္ခ ရောက်လာလို့ ဒီကိုမျက်စိလည်ပြီးရောက်လာတာ”

“နှစ်ယောက်လုံးလား”

“ဟုတ်ကဲ့ သူကမလေးကတော့ မဟုတ်ဘူး မြန်မာပြည်က”

“အော်....အေးအေး စားကြကွယ့် .လိုတာရှိရင်ပြော အဘွားတို့ အပြင်မှာရှိမယ်”

“ဟုတ်ကဲ့ခင်ဗျ ကျေးဇူးတင်ပါတယ်”

“ရပါတယ်ကွယ်...ရပါတယ်”

ကျော်ကျော် တို့ကို အဘွားလုပ်သူက ဖော်ဖော်ရွှေးရွှေး ပြောဆိုကာ ထွက်သွားတော့သည်။ ကျော်ကျော်တို့လည်း ဗိုက်ဆာဆာနှင့်ပင် အားပါးတရ လွေးလိုက်ကြတော့သည်။ စားသောက်ပြီးတော့ ဖာ့ဇလီက ကုတင်ပေါ် လှဲလိုက်ပါတော့သည်။ ပင်ပန်းလာသမျှ ဇိမ်အရှိဆုံး အချိန်ဟုပင် မှတ်ထင်နေမိတော့သည်။ ကျော်ကျော် ဖာ့ဇလီကို ပြုံးကြည့်ပြီး အပြင်ထွက်ရန် တံခါးဖွင့်လိုက်တော့ ဖာ့ဇလီက..

“ဘယ်တုံး”

“ငါ..အပေါ့သွားမလို့”

“အော်..အေး..”

ဖဲ့ဇလီ ကတော့ အခန်းထဲမှာကျန်ခဲ့သည်။ ကျော်ကျော် အိမ်ရှင်အဘွားပြောသည့် တစ်ခြားအခန်းရှိ ရေချိုးအိမ်သာအား လိုက်ရှာရင်း အိမ်ရှေ့ဘက်သို့ ရောက်ခဲ့ပါတော့သည်။ ထိုအချိန်ဝယ် အဘိုးလုပ်သူက ဖုန်းပြောနေတာကို တစ်အံ့တဩ တွေ့လိုက်ရပါသည်။ သူတို့အား ဖုန်းမရှိဘူးဟု ပြောခဲ့သည်မဟုတ်လား ခုတော့ အဘိုးလုပ်သူက ဟန်ဖုန်းနှင့် တစ်စုံတစ်ယောက်ထံ ဖုန်းဆက်ကာ မေးနေသံကို ကြားရပါသည်။ ကျော်ကျော်စိတ်တွင် မသင်္ကာမှုများက ပိုလို့ပင်တိုးလို့ သွားတော့သည်။ ကျော်ကျော် အကြောင်းစုံသိရန်အတွက် မိမိကို မမြင်အောင် တံခါးကြားထဲတွင် ပုန်းနေမိပါတော့သည်။ အဘိုးလုပ်သူ ဖုန်းပြောပြီးသော အခါမှ အဘွားလုပ်သူက မေးလိုက်သံကို ကြားလိုက်ရပါသည်။

“ဘယ်လိုလဲ သားက ဘာပြောလဲ”

“ဟုတ်တယ် သားပြောတဲ့ ကောင်လေးတွေရဲ့ ပုံသဏ္ဍာန်က ခုအိမ်ပေါ်ရောက်နေတဲ့ နှစ်ယောက်နဲ့အတူတူပဲ”

"ကဲ ကျုပ်မပြောလား၊ တော်ကလေ မပြောချင်တော့ဘူး ကျုပ်စကားဆို ဘယ်တော့မှ မယုံမကြည်နဲ့"

"ကဲထားပါ မင်းသား အခုပြန်လာတော့မယ် ငါဒီကလေးတွေကို ရွာထဲလိုက်ပို့လိုက်မယ်"

"တော်... ဘာလုပ်မလို့လဲ"

"ဟ...မင်းသားကို အားပေးအားမြှောက် မလုပ်နိုင်ဘူး ဒီကောင် ပိုဆိုးလာပြီး"

"အိုတော် ကျုပ်သား အသက်က ပိုအရေးကြီးပါတယ် ကျုပ်တော့ ကျုပ်သားထက် ဘယ်သူကိုမှမသနားနိုင်ဘူး"

"မင်း..မဟုတ်တာမလုပ်နဲ့"

"ဘာမဟုတ်တာလဲ ရှင့်သားကို ရှင်ပဲ အားပေးအားမြှောက် လုပ်ခဲ့တာ လူဆိုးကြီးဖြစ်အောင်လုပ်ခဲ့တာ ခုကြတော့မှ တစ်ခြား သူစိမ်းဘက်က နာမနေနဲ့"

"ဒီမယ် မိန်းမ ငါ့သားကို ငါက အားပေးအားမြှောက် လုပ်တာ ကလည်း ယောကျ်ားပီသစေချင်လို့ပဲ ခုလိုမျိုး ဆိုးသွမ်းနေဘို့ မဟုတ်ဘူး မင်းသားက ခုတော့ဖြင့် နိုင်ငံတော်က လိုချင်နေတဲ့

လူဆိုးကြီးကို ဖြစ်နေပြီးကွ အဲ့ဒါကိုမင်းက ဘာမှမသက်ဆိုင်တဲ့ သူတွေကို ဒုက္ခတွေပေးမနေတော့နဲ့ လွှတ်လိုက် သူတို့ကို"

"အို....ရှင်က ရှင်ဗိုက်နဲ့လွယ်ပြီး မမွေးရတော့ ကိုယ့်ရင်သွေးကို ဒီလိုပြောနိုင်ပေမယ့် ကျုပ်ကတော့ ကျုပ်သား ဆိုးချင်ဆိုးနေပါစေ သားကတော့ သားပဲ၊ သားနဲ့ပတ်သပ်ပြီး လဲလည်ရမယ့်အရာတွေ ဆိုရင်လည်းလဲပေးရမှာပဲ၊ အခုရှင်လည်း သိထားပြီးပြီ သားက မနေ့ညက ရောက်လာတုံးက ပြောခဲ့တယ်လေ သူ့ကြောင့် ကောင်လေး နှစ်ယောက် လွတ်သွားတာ သူတို့ကို မမိရင်တော့ သူသေရတော့မယ်တဲ့လေ"

"ဟင်...အဲ့ဒီတုံးက မင်းပဲ မင်းသားကို ဒီလိုလုပ်ရမလား ဆိုပြီး ဆူပူကြိမ်းမောင်းနေပြီးတော့"

"ဟုတ်တယ် ကျုပ်ဆူတာ ကျုပ်သားကောင်းစေချင်လို့"

"အေးခုလဲ မင်းလွှတ်ပေးလိုက်ရင် မင်းသားကောင်းလာမှာပဲ မဟုတ်လား မင်းသားကို နွံ့ထဲနစ်နေတာကို မင်းပါ အားပေး အားမြှောက် မလုပ်နဲ့တော့"

"အို....ကျုပ်ဒါတွေမသိဘူး ကျုပ်သိတာ ကျုပ်သားလေး အသက်ချမ်းသာ ဘို့ပဲ"

ကျော်ကျော် အံ့ဩကာ ခေါင်းနံပန်ပင်ကြီးသွားတော့သည်။ ကျော်ကျော် နောက်သို့လှည့်ကာ မိမိတို့ထားသော အခန်းသို့ မြန်မြန်ပြေးကာ ဖှဲ့ဇလီ ကိုသွားခေါ်ရပါတော့သည်။

အခန်းထဲ ဝရောသုံးကာ ဝင်လိုက်တော့ ဖှဲ့ဇလီက ကုတင်ပေါ်မှာ ဆန့်ဆန့်ကြီး ဇရပ်မင်း စီစိမ်ခံစားနေသည်။

“ဟော့ကောင် ဖှဲ့ဇလီ ထထ..ဟော့ကောင်”

အရေးထဲ ဖှဲ့ဇလီ ကတော်တော် နှင့်မနိုး ကျော်ကျော် အတင်းလှုပ်ကာ လုပ်တော့မှ အိပ်ချင်မူးတူးဖြင့် နိုးလာပါတော့သည်။

“ဘာဖြင့်လို့လဲ”

“ငါတို့ပြေးမှ ဖြစ်မယ်”

“ဘာကြောင့်လဲကွ အဘိုးလိုက်ပို့မယ် ပြောထားတာပဲ”

“ဟာ...ခုအချိန်မရှိဘူး ငါတို့ပြေးမှ ဖြစ်မယ်”

ကျော်ကျော် နောက်ကျသွားပါတော့သည်။ ကျော်ကျော် ပြန်လှည့် ပြေးလိုက်သည့် အချိန်တွင် အိမ်ရှင် အဘိုးနှင့် အဘွား အသံကြားသွား သဖြင့်နောက်ကလိုက်လာသည်ကို ကျော်ကျော် မသိလိုက်၊ ကျော်ကျော် အပူဇောများ ကပ်ကာ သတိလွတ်သွားခြင်း ဖြစ်ပါတော့သည်။

ကျော်ကျော် ဖာ့ဇလီကို ထရန်ပြောပြီး နောက်လှည့်လိုက်တော့ ကျော်ကျော်ကို နောက်မှရပ်နေသော အဘိုးလုပ်သူက တုတ်ဖြင့် ဆော်လိုက်ပါတော့သည်။

ဒုတ်...........

အ..........

ကျော်ကျော် လောကကြီးနှင့် အဆက်ပြတ်သွားပါတော့သည်။ နားထဲတွင်တော့ ဖာ့ဇလီ အော်သံလိုလို ကြားလိုက် မိသေးသည်။

"ကြောင်ကြောင်.........."

*****

ကျော်ကျော် သတိရလာတော့ ကုလာထိုင် တွင်လက်နှင့်ခြေထောက်ကို ကြိုးများတုတ်ထားသည်ကို သိလိုက်ရသည်။ လက်များလည်း လှုပ်လို့မရ အော်လို့မရအောင်လည်း ပါးစပ်တွင် အဝတ်ဖြင့် ချည်နှောင်းထားသည်။ ဘေးနားမှာတော့ ဖာ့ဇလီလည်း ကျော်ကျော်လိုပင် ဖြင့်နေသည်။ သူတို့နှစ်ယောက် မျက်လုံးဖြင့်သာ ပြောလို့ရသော အခြေအနေ ဘာမှလှုပ်လို့လည်း မရတော့ချေ။

အိမ်ရှင် အဘွားသည် သူတို့ဘေးမှာ ထိုင်နေပါသည်။ သူတို့နှစ်ယောက်ကို စိတ်မကောင်းသလိုကြည့်ကာ..

"အဘွားလဲ မလုပ်ချင်ပါဘူးကွယ် ဒါပေမယ့် အဘွားရဲ့သား အသက်နဲ့ ပက်သက်နေတော့ မလုပ်မဖြစ် လုပ်ရတာပါ၊ အဘွားက အမေလေ၊ အမေဆိုတာ သားဆိုးလည်းသားပါပဲ သားလိမ္မာလည်း သားပါပဲ ကိုယ့်ရင်သွေးနဲ့ ပက်သက်လာနေတော့ အဘွားသား ဘက်ကနေပြီး လုပ်ပေးလိုက်ရလို့ စိတ်တော့ မကောင်းပါဘူးကွယ် အဘွား မင်းတို့ကို တောင်းပန်ပါတယ်"

ကျော်ကျော် တို့မှာတော့ နားထောင်သူသက်သက်သာ ဖြစ်လို့နေပါတော့သည်။ ဘာမှပြန်မပြောနိုင်ချေ။ ပြောလည်း အသံထွက်လာမည်မှ မဟုတ်တာ၊ ကျော်ကျော်တို့ကို စိတ်မကောင်းသလို အိမ်ရှင် အဘွားကတော့ လုပ်နေပေမယ့် ကျော်ကျော် တို့မှာတော့ ငရဲနှုတ်ခမ်းဝမှာ ရပ်နေရသလိုပါပဲ။

ထိုအချိန် အိမ်ရှင် အဘိုးအပြင်မှပြန်ရောက် ဟန်တူပါသည်။ အမောတကော နှင့်ဝင်လာပါတော့သည်။

"ဘယ်လိုလဲ အဘိုးကြီး သားမပါလာဘူးလာ"

"မင်းသား ဒီနေ့တော့လာနိုင်မယ် မထင်ဘူး"

“ဘာဖြစ်လို့တုံး”

“ရွာထဲမှာ ရဲတွေရောက်နေတယ် အများကြီးပဲ ငါတောင် မင်းသားကို သွားကြိုမလို့ဟာ မကြိုဘဲနဲ့ ပြန်လှည့်လာတာ”

“ရဲတွေဟုတ်လား”

“ဟုတ်တယ် ရဲတွေ ဒီကလေးနှစ်ယောက်ကိုလိုက်ရှာနေကြတာတဲ့ ငါစုံစမ်းကြည့်တာတော့”

“ဟင်ဟုတ်လား”

“အေး... ဒီကလေးထဲက တစ်ယောက်က လူကြီးသားတဲ့ကွ ငါတို့ တော့ ကိုယ်ကျိုးနည်းပြီး”

“အိုတော်... ကျုပ်ကတော့ မကြောက်ဘူး...ဒီကလေးနှစ်ယောက် ကျုပ်တို့အိမ်ထဲရောက်နေတာ ဘယ်သူသိလို့တုံး ဒီအတိုင်း ထားတာပေါ့ သားပြန်လာတဲ့အထိ ထားလိုက်မယ် သားလည်း အကြောင်းရှာပြီး ရောက်အောင်လာမှာပါတော်”

ရဲတွေဆိုသည့် အသံကြားသဖြင့် ဖာ့ဇလီမှာ မျက်ဝန်းများ အရောင် တောက်ကာ ဝမ်းသာသွားပါတော့သည်။ ကျော်ကျော်လည်း ထို့အတူ ဝမ်းသာ သွားပါသည်။

ရှန်းလေ လှုပ်မရလေ ဖြစ်နေသော ကြိုးများက တင်းလို့လာသည်။ ကျော်ကျော် ကြိုးစားပြီး လုပ်နေပါသော်လည်း ဘာအရာမှ ဖြစ်မြောက်မလာခဲ့ အောင်မြင်ခြင်းရလဒ်လမ်းလည်း ဝေးနေခဲ့ပါပြီ။ ကျော်ကျော် ဖာ့ဇလီ ကိုကြည့်လိုက်တော့ မျက်ဝန်းများက မျှော်လင့်ခြင်းများဖြင့် သူ့အား ပြန်ကြည့်နေသော အကြည့်တွေကိုတွေ့ရတော့ ကျော်ကျော် စိတ်ထဲ လွတ်မြောက်ရေးကို ပိုလို့ပင် ကြိုးစားမိတော့သည်။ ထို အကြည့်သည် ကျော်ကျော်အတွက် အားတစ်ခုဆိုခဲ့လျှင် ကျော်ကျော် မငြင်းနိုင်ပါ။ ဟုတ်မှန်သည်ဟု ဝန်ခံမည်သာ ဖြစ်ပါသည်။

ကျော်ကျော်တို့အား စိတ်မကောင်းစွာ ကြည့်နေသော အိမ်ရှင်အဘိုးက အဘွားဖြင့်သူကို ချော့မော့ပြောဆိုနေသံ ကိုလည်းကြားနေရသည်။

"သူတို့ကိုလွှတ်လိုက်ပါကွာ"

"ဒါဆိုကျမက ကျွန်မတို့သားကို ဆုံးရှုံးပေးလိုက်ရမှာလား ပြော"

"ကျုပ်ဆိုလိုတာက ဘာမှ အပြစ်မရှိသူတွေကို ဒုက္ခမပေးဘို့ ပြောတာပါကွာ တစ်ခြားနည်းလမ်းနဲ့လဲ တို့သားကို ကယ်လို့ရမှာပါ တို့တွေကြိုးစားကြတာပေါ့"

"အို.... ဘယ်လိုကယ်နိုင်လို့လဲရှင်... ရှင်လဲကြားတာပဲ သူတို့တွေ သားလေးကို အသက်အန္တရာယ်ကို ချိန်းခြောက်နေကြတာကိုလေ

ရှင်လဲသိတယ် ကျုပ်လဲသိတယ် သူတို့တွေဘယ်လောက် ရက်စက်ယုတ်မာတယ်ဆိုတာကို”

“ဒါပေမယ့် ကွာ...”

“တော်...ဘာမှမပြောတော့နဲ့ ကျုပ်ကတော့ ကျုပ်သားကို ဘယ်လိုကယ်ရ ကယ်ရ ရအောင်လုပ်မှာပဲ ရှင်မလုပ်ချင်ရင် ဘေးထွက်ထိုင်နေ ဘာမှလဲမကူးသလို ဘာမှလည်း လာမရှုပ်နဲ့”

“ဥပဒေနဲ့ မလွတ်ကင်းတာတွေကို မင်းကိုယ်တိုင် အားပေးအားမြှောက်နေတယ်ဆိုတာကော သတိထားမိရဲ့လား”

“အိုတော် ကျုပ်အသက်ပေးပြီးတော့ကို ကျုပ်သားကို ကျုပ်ကယ်မယ် တော်ပြီ အဘိုးကြီး ရှင်လဲရှုတ်ရှုတ်မလုပ်နဲ့ ဒါပဲ ကျုပ်ပြောမယ်”

အိမ်ရှင်အဘွားသည် အဘိုးအား ကြိမ်းမောင်းလျှက် ကျော်ကျော်တို့ထားသည့် အခန်းထဲမှ ထွက်သွားတော့သည်။ အဘိုးကတော့ ကျော်ကျော် တို့ကို စိတ်မကောင်းစွာ ကြည့်နေပါတော့သည်။ ကျော်ကျော်တို့မှာလဲ အဘိုးအား အသနားခံ မျက်ဝန်းများ ဖြင့်ကြည့်နေပါတော့သည်။

“အဘိုးလဲ စိတ်မကောင်းဘူး ကလေးတို့ရယ်”

အိမ်ရှင်အဘိုးသည် မျက်ဝန်းထဲမှ မျက်ရည်များကျလာကာ ဝမ်းနည်းသံကြီးဖြင့်

> "မင်းတို့အဘွားကလေ အရင်ကအဲ့ဒီလိုမဟုတ်ဘူး... သူဟာ စိတ်သဘောထားကောင်းတယ် သူတပါးကို ကူညီပေးတယ် စိတ်ထားလဲ ဖြူစင်တဲ့သူပေါ့ကွာ ...ခုတော့.... သူ့ကိုပတ်ဝန်းကျင်နဲ့ သူ့ရဲ့ တစ်ဦးတည်းသောသားက ပြောင်းလဲပေးလိုက်ပြီး အဘိုး ရင်နာလို့မဆုံးဘူး"

ကျော်ကျော် နှင့် ဖာ့ဇလီ လည်းအဘိုးကိုသနားသွားပါသည်။အဘိုးသည် ကျော်ကျော်တို့ ရှေ့ကချထားသော ကုလားထိုင်တွင် ထိုင်လိုက်ပြီး မျက်နာကတော့ ဟိုးအဝေးဆီသို့ ငေးမောကာ စိတ်မကောင်းခြင်းများစွာဖြင့် ငေးကာ အတိတ်၏ အရိပ်ကို ကျော်ကျော်တို့အား ခေါ်ဆောင်သွားတော့သည်။

============= ==============

မင်းတို့ အဘွားနာမည်က နော်ဟိဇာတဲ့ သူမဟာ အနာကြီးသည် မိခင်မှ မွေးဖွားလာသူ တစ်ဦးပါပဲ၊ သူမ၏အမေက တိုင်းရင်းဆေးတွေ ကိုယ်တိုင်ဖော်ဆက်ပြီး ရောင်းပြီး သူမတို့မိသားစု အသက်မွေးတယ်ကွယ်။ သူမတို့ သားအမိနှစ်ယောက်တည်းက ဒီအိမ်ကြီးထဲမှာ နေကြပြီး ဆေးပင်များကို

စိုက်ကာ အသက်မွေးဝမ်းကျောင်း ရသည်။ အမယ်အိုကြီးက ဆေးတွေ ဖော်စပ်ရင်း သူမကိုစောင့်ကြည့်နေခဲ့သည်။ သူမ၏ အမယ်အိုကြီး ရောဂါကြောင့် ဗဟုသုတနည်းပါးလှသော ရွာသူ၊ သားများ၏ စုန်းမကြီးဟု စွတ်စွဲတမုတ်ခြင်းကိုခံရပြီး ပယ်ထားကြသည်။

သူမအားလဲ စုန်းမကြီး၏ သမီး ဝမ်းတွင်းစုန်းဟု သမုတ်ကြပြီး ပေါင်းသင်းမည့်သူငယ်ချင်းပင် မရှိပဲ အပယ်ခံဘဝဖြင့် ကြီးပြင်းခဲ့ရသည်။ သူမကတော့ ရွာသူ၊ သားများကို သဘောထားကြီးစွာ ကူညီလုပ်ကိုင်ပေးခဲ့ရှာသည်။ စိတ်ထားဖြူစင်စွာ သူမ၏ မိခင်ဆီမှ တတ်မြောက်တဲ့ ဆေးပညာနဲ့ပဲ ရွာသူ၊ သားများကို ကူညီပေးတယ်။ သူမ၏ အကူညီကို လိုအပ်လျှင် ရှင်ရှင်ဝေအောင် ပြောဆိုကြပြီး သူမဆီမှ အကူညီများကို ရယူသွားကြသည်။ သို့ပေမယ့် ကွယ်ရာရောက်ခဲ့လျှင် သူမရဲ့ ကောင်းကြောင်း တစ်ခွန်းမှ မပြောကြချေ။ သူမကလည်း ထိုအရာကို စိတ်ထဲမထားပဲ ရွာသူ၊ သားများကို ကူညီစောင့်မ ပေးခဲ့ပါသည်။ သူမအပျိုရွယ် အသက် ၂၀ ဝင်ကျင်းမှာပဲ သူမ၏ အမယ်အိုမှာ ကွယ်လွန်သွားရှာသည်။ သူမကတော့ အမယ်အိုဆီမှ တတ်မြောက်ထားသည့် တိုင်းရင်းဆေးဖြင့် ဆက်လက်၍ လူတွေကို အကျိုးပြုကူညီပေးနေဆဲ ဖြစ်ပါသည်။

သို့ပေမယ့် သူမ၏ဘဝသည် လှပမနေခဲ့ပါချေ။ သူမကိုချစ်သော ရွာလူကြီး၏သားကြောင့် သူမ၏ နာမည်များကို ပျက်စပြုလာခဲ့တော့သည်။ သူမနှင့် ရွာလူကြီး၏သား ( ယခုအဘိုး ) လွယ်ပဇန် ၏ ချစ်ခြင်းများကို ဖျက်သူကတော့ လွယ်ပဇန်ကို တဖတ်သတ် ချစ်ခင်နေသော ရွာသူ ခန်းမနော် ပင်ဖြစ်တော့သည်။

“ဝမ်းတွင်းစုန်းဆိုတော့ လွယ်ပဇန်ကို ပြုစားထားတာ ဖြစ်မှာပေါ့ မယ်မယ်ရယ်”

လွယ်ပဇန် မိဘများကို သွားကာ အတို့အထောင်လုပ်သည်။ သူတို့ချစ်ခြင်းကို ရသလို လိုက်ဖျက်သည်။

“ဟယ် စုန်းမှ စုန်းအစစ်တော်ရေး..... ရွာထဲကကြက်တွေကို ခိုးစားတာသူပဲပေါ့”

ရွာထဲတွင်လဲ သပုတ်လေလွင့် လိုက်ပြောသည်။ မဟုတ်သတင်းများကိုလည်း လွှင့်သည်။ ထိုကြောင့် သူမကို (အဘွား) ရွာသူ၊ သားများက ကြောက်ကာ မုန်းလာကြသည်။ လွယ်ပဇန်၏ မိဘများဆို တူးတူးခါးခါးပင် ဖြင့်နေတော့သည်။ လွယ်ပဇန်က ချစ်သူထိတော့ နာသည်။ သပုတ်လေလွင့် ပြောသူများကို ရန်လုပ်တာတောင် နော်ဟိဇာက တားသည်။ သည်းခံရန်လဲ ပြောသည်။

"ရှင်ကျွန်မကို ချစ်ရင်တော့ လူတွေပြောတာခံရမှာပဲ ရှင်တကယ်ချစ်ရင် ဒါတွေကိုသည်းခံရမယ် ကျွန်မကြည့်ချင်တယ် ရှင်တစ်ကယ် ချစ်မချစ် ဆိုတာကိုပေါ့"

ထိုသို့ဖြင့် သူ့အား သူမထိန်သိမ်းလာခဲ့သည်။ နောက်ဆုံး သူရပ်ရွာလူကြီးများမပါဘဲ မြို့တက်ကာ သူမနှင့် တရားဝင် လက်ထပ်လိုက်ပါတော့သည်။ သူမအတွက်တော့ သူစိတ်မကောင်းခဲ့ပါ၊ သူမကတော့ ပြောရှာပါသည်။

"ရှင်သာ ကျမအနား သက်ဆုံးတိုင်ရှိနေမယ်ဆိုရင် ကျွန်မ ကျန်တာတွေမလိုပါဘူး...ကျမအတွက်ရှင်ကတော့ သူရဲကောင်းကြီးပါ"

ဒီနယ်မြေကနေပြီး ခွာရန်ပြောသော်လည်း သူမက...

"ကျွန်မတို့ရွာလေးက ခေါင်းပါးတဲ့နေရာလေ ကျမနေရာမှာ ရွာသူ၊သားတွေကို ကျမ္မားရေးကြည့်ပေးမယ့်သူ ကျွန်မလိုစိတ်ထားရှိနိုင်မယ့်သူ ပေါ်လာရင်တော့ ရှင်ပြောသလို ဒီရွာက ခွာထွက်တာပေါ့"

သူမအား မကောင်းမမြင်သော ရွာသူ၊သား အပေါ်တောင်မှ သူမစိတ်မကွက်ရှာပဲ စေတနာအပြည့် မေတ္တာအပြည့် ပေးခဲ့သူပါ။ ထိုကြောင့် သူမကို သူအသက်မက ချစ်ခဲ့ရသည်။ သူနှင့် သူမတို့

ပေါင်းသင်းပြီး ၂ နှစ်ပြည့်ချိန်မှာတော့ သူနှင့်သူမအကြား ရင်သွေး သားရတနာလေး ဇံပနော်ကို လူလောက ကြီးထဲသို့ ခေါ်ဆောင်ခဲ့တော့သည်။ သားလေး ကလေးအရွယ်ကပင် နော်ဟိဇာလို အပယ်ခံဘဝဖြင့် အသက်ရှင်ခဲ့ရသည်။ သူကတော့ အဖေဆိုတော့ သားကိုလာဗိုလ်ကျလျှင် မခံချင် ထိုကြောင့် သားအားမြှောက်ပင့်ပေးခဲ့သည်။ သားခံလာရတဲ့နေ့ သားငိုပြီး ပြန်လာတဲ့နေ့ တွေဆိုရင် သူသားကို ရိုက်သည်။

“မင်းယောကျ်ားမဟုတ်ဘူးလား... ဘာလို့ငိုလာတာလဲ... သွား.. နိုင်အောင်ချခဲ့... အေးနောက်တစ်ခါ ရှုံးလာလို့ကတော့ ငိုပြီး ပြန်လာလို့ကတော့ မင်းကိုထမင်းမကျွေးဘူး အငတ်ထားမယ်၊ ယောကျ်ားဆိုတာ ငိုဘို့ မဟုတ်ဘူးကွ ချဘို့ချဘို့”

သူ၏ မြှောက်ပင့်ပြောဆိုနေတာက သားခံလာရတာကို မကြည့်ရက်လို့ပါ။ သူကတော့ နော်ဟိဇာလောက်တော့ သည်းမခံနိုင်ပါပေ။ သူမကတော့ သားဖြစ်သူကို ဆူပူကြိမ်းမမောင်း သည်းခံရန်သာ တစ်တွတ်တွတ် မှာရှာသည်။

“သားရယ် မေတ္တာဖြင့်သာ အနိုင်ယူပါနော် လူဆိုတာ မေတ္တာက အဓိကပဲကွယ့် သားကမေမေတို့ ရဲ့သားရတနာ လေးပါ”

ထိုသို့ဖြင့် ကြီးပြင်းလာသော သားတော်လေးကတော့ ဆိုးတေ မိုက်လာသည်။ လိုက်လို့မမှီအောင် ဆိုးပေလာသည်။ သူမနှင့်လဲ တစ်ကျက်ကျက် ဖြင့်လာသည်။ အရွယ်လေ ရောက်လာတော့ ပို၍ ထိန်းလို့မရတော့ချေ။ ထိုနောက်ပိုင်းတော့ သားဖြင့်သူသည် မိဘတွေ နှင့်အတူမနေတော့၊ ဆိုးတေမိုက်လာချက်ကတော့ ခိုးဆိုးတိုက် လာခဲ့ တော့သည်။ တစ်ရက်တော့ သူသားအိမ်ရောက်လာသည်။ သားတစ် ယောက်တည်းမဟုတ် ကားကြီးကလဲ အကောင်းစားဖြင့် သား၏ သူဌေး ဟုပြောသူနှင့် နောက်လိုက် သားလိုမျိုးတပည့်များ ၈ ယောက်လည်း ပါလာသည်။ သူဌေးဆိုသူက သူတို့အား ပစ္စည်းကောင်းများပေးကာ သားကို ကန့်တော့စေခဲ့သည်။ သူတို့ကျေးဇူးတင်လိုက်သည့် ဖြစ်ခြင်း။ သူဌေးဆိုသူကိုလဲ ကျေးဇူးများ တင်လိုက်သည်ကတော့ မပြောနှင့် ဆိုးတေနေသော သူတို့သားလေး လိမ္မာလာပြီးဟုလဲ ဝမ်းသာနေခဲ့ ပါသည်။

၂-ရက်လောက် အိမ်မှာနေကြပြီးမှ ခရီးထွက်ရန်ထွက်သွားကြတော့သည်။ သူတို့အားလုံး ထွက်သွားကြပြီး သားလုပ်သူ ပြန်လာတော့ ၃-ရက် မြောက်နေ့ ညကြီး ဖြစ်ပါတော့သည်။ သားလုပ်သူသည် မိဘများကို စကားကောင်းကောင်း မပြောနိုင် တစ်ခုခုကို စိုးရိမ်သလိုဖြင့်နေသည် ကိုလည်း တွေ့နေရတော့ တစ်ခုခုဖြစ်ခဲ့သည်သာ သိသည်။ ဘာ

အကြောင်းမှ သဲသဲကွဲကွဲ မသိခဲ့၊ နောက်ဆုံး အမေလုပ်သူက ငိုရှိုတောင်းပန်ပြီး ပြောပြရန် ပြောတော့မှ ...... သူတို့အလုပ်က ဓားပြပြန်ပေးဆွဲသည့်အလုပ်၊ ခုသူဖွေးလုပ်သူက သူစောင့်ကြည့် နေသောကလေးနှစ်ယောက် လွတ်သွားသဖြင့် ထိုကလေးနှစ်ယောက်ကိုလိုက်ဖမ်းရန် ပြောသည်။ ထိုကလေးမမိပါက သူ့အား သတ်တော့မည်ကိုပြောလိုက်တော့ အမေလုပ်သူမှာ အံ့သြဝမ်းနည်းစွာ သားဖြစ်သူကိုရိုက်နှက်၍ ငိုရှိုပါတော့သည်။

"ဟင်...အဲ့ဒီလောက်မိုက်ရလား...ဟင်...နင်က ငါ့သားမှဟုတ်ရဲ့လား"

ထိုသို့ပြောဆိုပြီး သူမငိုရှိုခဲ့သည်။ နောက်ရက် မနက်စောမှာတော့ သူဖွေးလုပ်သူလာခေါ်သွားကာ သူမ၏သားကို ကြိမ်းမောင်းနေသည်ကိုမြင်ပြီး သူမကြေကွဲခဲ့ရသည်။ မိမိတို့ ရှေ့မှာတင် ရိုက်လားပုတ်လားဖြင့် သားလုပ်သူကို ကြိမ်းမောင်းနေသည်ကို မြင်ရတော့ မိဘများ၏ ရင်ထဲနာလှသည်။ သူတို့လည်း ဘာမှမကူညီနိုင်ရှာ ဒီအတိုင်းသာ ရင်နာနာဖြင့်ကြည့်နေရသည်။ ထိုတစ်ညလုံးသူမ မအိပ်ခဲ့ပဲ သူမသားအတွက်ဆုတောင်းပေးခဲ့ပါသည်။

******

"နောက်နေ့ မနက်ကျတော့ မင်းတို့ရောက်လာတာပဲကွယ် အဘိုးလဲစိတ်မကောင်းဘူး မင်းတို့အဘွားက တစ်သက်လုံး လူတွေကို ကယ်လာခဲ့ပြီးမှ ခုတော့ သူမရဲ့ တစ်ဦးတည်းသော သားလေးအတွက် မလုပ်သင့်တာတွေ လုပ်နေပြီးကွယ်၊ အဘိုးသူ့အတွက် စိတ်မကောင်းဖြင့်လိုက်တာကွယ်"

ကျော်ကျော်တို့လဲ စိတ်မကောင်းဖြင့်ရပါသည်။ အဘိုးသည် မျက်ရည်များကိုသုပ်ကာ အခန်းထဲမှ လေးပင်စွာ ထွက်သွားပါတော့သည်။ ကျော်ကျော် ဖာ့ဇလီ ကိုကြည့်လိုက်တော့ မျက်ရည်များကျကာ အဘွား အတွက်လား မိမိတို့အတွက်လား ဝမ်းနည်းနေသည်ကို ကျော်ကျော် မြင်ရတော့ ရင်ထဲမချိအောင် ဖြင့်ရသည်။

ထိုသို့ကျော်ကျော် နှင့် ဖာ့ဇလီ နှစ်ယောက်သားမှာ တစ်ယောက်ကို တစ်ယောက် မျက်လုံးများဖြင့်သာ စကားပြောနေရပါတော့သည်။ အပြင်မှ ခြေသံပြင်းပြင်း လျှောက်လာသံကြားတော့ နှစ်ယောက်သား လန့်ဖျတ်သွားတော့သည်။ ကျော်ကျော်အထင် အဘွား၏သား ပြန်ရောက် လာပြီးလား.....

ကျော်ကျော် အထင်လွဲသွားသည်။ အဘိုးနှင့် အဘွား လောလော နှင့် အခန်းထဲဝင်လာသည်ကို မြင်ရသောကြောင့် ဖြစ်သည်။ တစ်ခုခုကို စိုးရိမ်ကြောင့်ကျနေသလိုပါပဲ

"ဘယ်လိုလုပ်မလဲ ရဲတွေက တစ်အိမ်ဝင်တစ်အိမ်ထွက် လိုက်မေး နေတယ်လို့ ကြားရတယ် ဒီကလေးနှစ်ယောက်ကို မိသွားလို့ ကတော့ ငါတို့တွေမလွယ်ဘူးနော် "

အဘိုး၏ ကြောင့်ကျပြီးပူပန်နေသောလည်း အဘွားကတော့ မျက်နာသေ ဖြင့်သူတို့အားကြည့်လိုက်ပြီး

"ဘာမှ စိုးရိမ်ကြောင့်ကျ မနေနဲ့ ဒီကလေးနှစ်ယောက်ကို ခွဲထား လိုက်"

ဟင်.....ကျော်ကျော် ဖာ့ဇလီ အတွက် စိုးရိမ်သွားသလို ဖာ့ဇလီလည်း ကျော်ကျော် အတွက် စိုးရိမ်သွားခဲ့သည်။

"မင်းက ဘာလုပ်မလို့လဲ"

"သူတို့ကို အခြေအနေအရခွဲထားရမှာပဲ သားကလည်းပြောတယ် သူတို့နှစ်ယောက်ကို ခွဲထားပေး အခြေအနေ မကောင်းရင်တော့ သူတို့ကို တစ်ခုခုသာလုပ်လိုက်တဲ့"

"ဘာကွ....မင်းလွန်လှပြီးနော်"

"အိုတော် ကျုပ်သားအတွက် ကျုပ်ဘာမဆို လုပ်မယ်လို့ ရှင့်ကို ပြောထားပြီးသားနော် သွားဟိုကောင်လေးကို မြေအောက်က

ဆေးဖေါ်တဲ့အခန်းမှာထားလိုက် ပြီးရင်ကျုပ်လုပ်လိုက်မယ် သားကို နောက်ထက် ၃ နာရီပဲစောင့်တဲ့ ၃ နာရီကျော်သွား ရင်တော့ သားပြောတဲ့အတိုင်းပဲ ဖြစ်တော့မှာပေါ့"

အဘွားသည် ဖာ့ဇလီ ကိုညွှန်းပြကာ အဘိုးကိုခိုင်းလိုက်သည်။

"သူကျတော့ရော"

ကျော်ကျော် ကိုရည်ရွယ်ကာ အဘိုးက မေးလိုက်သည်ဖြစ်သည်။

"သူက သိပ်အရေးမကြီးပါဘူး သူကိုတော့ ဒီအတိုင်းပဲ ထားလိုက် သူက လည်လည် ဝယ်ဝယ် ပြောတတ်သူလဲ မဟုတ်ဘူး သူကိုတော့ဘာမှ မလုပ်ပါဘူး ဒါပေမယ့် သူလဲငြိမ်မနေရင်တော့ ကျမဆေးတွေနဲ့ မိတ်ဆက် ပေးလိုက်မယ်"

"မင်းကွာ ကလေးတွေကို"

"ရှင်...ကျွန်မ ပြောတာလုပ်မှာလား "

အဘွား၏ ခပ်စိမ်းစိမ်းကြည့်သော အကြည့်ကြောင့် အဘိုးလုပ်သူမှာ စိတ်မကောင်းစွာဖြင့် ဖာ့ဇလီကို ခေါ်ဆောင်သွားတော့သည်။ ဖာ့ဇလီ၏ မျက်ဝန်းများကိုကြည့်ပြီး ကျော်ကျော် မခံစားနိုင်တော့ ဖာ့ဇလီလည်း အားရှိသမျှ ရုန်းရှာပါသည်။ သို့သော် အရာမထင်ခဲ့ပါချေ။ ယက်ကန်

ယက်ကန်ဖြင့် ဖာ့ဇလီ ပါသွားရှာသည်။ ကျော်ကျော် အသိထဲမှာ ဖာ့ဇလီ သာရှိတော့သည်။

ဖာ့ဇလီအတွက် စိုးရိမ်ပူပန်များက ငယ်ထိပ်သို့ ဆောင့်တက်ကုန်သည်။ သူတို့တွေ ထွက်သွားတော့ ကျော်ကျော် အားရှိသမျှ ရုန်းထွက်ပါတော့သည်။ ကျော်ကျော် ခြေကချည်ထားသော ကြိုးမှာ ရုန်းပါများတော့ နည်းနည်း လျော့လာသည်ဟု စိတ်ထဲထင်မိပါတော့သည်။ ဒီအတိုင်းငြိမ်နေလျှင် သူ ဖာ့ဇလီကို ဆုံးရှုံးရတော့မည်ဟု အသိတစ်ခုဝင်လာသည်နှင့် အားများကို အတင်းဆုကာ ရုန်းကန်ပါတော့သည်။ ခြေကျင်ဝတ်က ကြိုးများတင်းကာ ပွန်းကုန်ပါတော့သည်။

ကျော်ကျော် မနာနိုင်ပါ ရင်ထဲကအပူမီးက ထိုအနာလောက်ကို ဘာမှ အရာမထင်ပါချေ။ ရုန်းအားကို တိုးလို့ပင် လှုပ်ရှားရင်းက ဖိနပ်ကို ကြိုးဖြင့်တင်းကာ အရင်ချွတ်လိုက်သည်။ ကြိုးမှာ တင်းကာ နာလှပါသည်။ အချစ်၏ တန်ခိုးများက ကျော်ကျော်ကို အားပြည့်စေပါသည်။

ရုန်းရင်းက ခြေတစ်ဖက်ထွက်လာပါတော့သည်။ ထိုနောက် နောက်ခြေတစ်ဘက်ကိုလည်း ကြိုးထဲမှထုတ်လိုက်ပြီး ခုန်ကို နည်းနည်းရွေ့ကာ ဘေးတွင်ထောင်ထားသော မတ်တက်မီးတိုင်ကို ခြေတစ်ဘက်ဖြင့် လှမ်းဆွဲလိုက်သည်။ မမှီပါ နည်းနည်းလေး လွတ်သွားသည်။ လက်ကလည်း ခုန်တန်းကို ချည်ထားသဖြင့် ဘယ်လိုမှလှုပ်လို့မရချေ။

ခုန်ကြီးတန်လန်းနှင့် မီးတိုင်ကိုပြန်ဆွဲသည်။ ဒီတစ်ခါတော့မီးတိုင်က ကျော်ကျော့်ရှေ့ လက်နှစ်ဘက်ပေါ်သို့ ကျလာတော့သည်။ ကျော်ကျော် မီးခွက်ကို လက်၏ ကြိုးပေါ်သို့ ဦးခေါင်းဖြင့်လှည့်ပေးလိုက်သည်။ မီးအား က တော်တော်ပူပါသည်။ ကျော်ကျော် ကြိတ်မှိတ်ခံကာ လက်ပေါ် ချည်ထားသော ကြိုးပေါ်သို့ တင်ပေးလိုက်ပြီး ကြိုးပြတ်ရန်အတွက် လှုပ်ရှားရပါတော့သည်။

"အား.........."

ကျော်ကျော် ကြိတ်ခံကာ အော်ရပါတော့သည်။ မီးအားသည် ကျော်ကျော် လက်ကို ပူလောင်စေပါသည်။ သို့သော် ကျော်ကျော်၏ ရင်ထဲက အပူကိုတော့ မမှီပါ။ ကျော်ကျော်ရင်ထဲ အပူမီးများတိုးကာ ထိန်းလို့ မရတော့ လွတ်မြောက်ဘို့သာ စိတ်က ကြီးဆိုးနေပါတော့သည်။ အလျှင် လိုလေ အချိန်ဖင့်လေ ဆိုသည့်စကားက မှန်နေသည်အလား၊ ကျော်ကျော် အလျင်လိုစွာ လွတ်မြောက်ရန် လုပ်ဆောင်ရသော အခြေအနေသည် မလှ ပချေ။

ကျော်ကျော်လက်က ပူလောင်လှပါသည်။ မီး၏အားကလဲ အတော်ကို ပူပြင်းလှသည်။ သို့သော် ကျော်ကျော် ထိုအပူကို ကြိတ်မှိတ်ကာ အံတင်း ခံပြီးလွတ်မြောက်ရန်သာ စိတ်ကလောနေတော့သည်။ လက်၏အပူမီးကို အသိမထားနိုင်၊ ခုချိန်မှာ သူလွတ်မြောက်ဘို့က အရေးကြီးပါသည်။

လက်၏အပူမီးသည် ဖာ့ဇလီအား စိုးရိမ်စိတ်နှင့် နှိုင်းယှဉ်လျှင် သူ့အတွက်တော့ စာမဖွဲ့နိုင်သာ ထိုကြောင့်လဲ လွတ်မြောက်ရန်သာ လိုတော့သည်။

အား...........

လက်၏ အပူကို ကြိတ်မှိတ်ကာ အံတင်း၍ အသံမထွက်နိုင်အောင် လည်းကြိုးစားရသည်။ လက်၏ ကြိုးကိုရုန်းကန်နေရင်းက ကြိုးစများ မီးဆွဲစ ပြုလာသည်။ ကျော်ကျော် အံတင်းကြိတ်မှိတ်ကာ လက်၏ အပူကိုတော့ သူခများ မျက်စိစုံမှိတ် ကြိတ်မှိတ်ကာ နုတ်ခမ်းများ ပြတ်မလာအောင် ထင်ရအောင် ကြိတ်ခဲကာ အသံမထွက်အောင် အောင့်အီးသည်းခံ နေရတော့သည်။

မီးစလောင်တော့ လက်ကိုပါအပူမီးဆွဲ တော့သည်။ ကြိုးစကလောင်သော မီးက လက်ကိုရဲတက်ကာ လောင်ထွက်သွားသည်။ ကျော်ကျော် ရုန်းအားများကို စုစည်းကာ အတင်းရုန်းထွက်လိုက်တော့သည်။

ဝုန်း.........................

ကျော်ကျော် အားလွန်ကာ ထိုင်ခုန်နှင့်အတူ လဲကျသွားတော့သည်။ ကျော်ကျော် လက်ကိုချည်ထားသော ကြိုးကမီးလောင်နေဆဲ၊ ထိုကြောင့် ကျော်ကျော် လောင်နေသော မီးကိုလဲ ငြိမ်းလိုက်ရတော့သည်။ ထိုသို့မှ

မလုပ်လျှင် အိမ်ကြီးအားမီးလောင် သွားစေပြီး ဖာ့ဇလီကို ကယ်ထုတ်ရန် ခက်ခဲလေမည် မဟုတ်လား။ ထိုင်ခုန်၏ လက်တစ်ဖက် တန်းလန်းနှင့် လှုပ်ရှားနေရသော ကျော်ကျော်ကတော့ အချိန်သည် လိုအပ်တာထက် နည်းနည်း ကြန့်ကြာနေတော့သည်။

လက်ကို မီးလောင်သည့် ဒါဏ်ကိုပင် မမှုနိုင် စိတ်ကလောကြီးစွာ လွတ်မြောက်ရန်အတွက် လုပ်ဆောင်ရတော့သည်။ ခြေကျင်းဝတ်မှ ပွန်းပဲ့ ဒါဏ်များကလည်း သွေးများစို့နေပါတော့သည်။ ကျော်ကျော် မီးများကို ငြိမ်းသတ်ပြီးတော့မှ ကျန်ရှိလက်တစ်ဖက်မှ ကြိုးများကို လွတ်နေသော ဘယ်လက်နှင့်အတူ ပါးစပ်၏ အကူညီဖြင့်ခက်ခက်ခဲခဲ ဖြေရတော့သည်။

အိမ်ရှင်အဘွားသည် အပေါ်ထက်မှ ဝုန်းဆိုသော အသံကြောင့် အိမ်ရှင် အဘိုးအား အပေါ်သို့တက်ကြည့်ရန် ပြောလိုက်သဖြင့် အိမ်ရှင်အဘိုးသည် အပေါ်သို့ တက်လာပါတော့သည်။ အဘိုး၏ သွက်လက်မှုကတော့ အနည်းငယ် နှေးကွေးလှပါသည်။

သူသည် ကျော်ကျော်အား ချုပ်ထားသော အခန်းတံခါးကို သော့ဖြင့်ဖွင့်ရန် လုပ်ဆောင်နေချိန်အတွင်း ကျော်ကျော်၏ လက်က ကြိုးကလည်း လျော့ကျ သွားတော့သည်။

အိမ်ရှင်အဘိုးသည် တံခါးကိုဖွင့်၍ ဝင်လိုက်သောအခါမှာ အခန်းက မီးတိုင်လည်း လဲကျနေပြီး ကျော်ကျော်အား ချည်ထားသော ထိုင်ခုန် လည်း လဲကျနေသော မြင်ကွင်းကိုမြင်လိုက်ရတော့သည်။

“ဟင် ကောင်လေး ဘယ်ရောက်သွားပြီးလဲ”

တံခါးနောက်ကွယ်ကနေပြီး ကျော်ကျော် ပုန်းနေရာမှ အိမ်ရှင် အဘိုးကြီး ကို နောက်ကနေပြီးခုန်အုပ်လိုက် ပါတော့သည်။

ဝုန်း...............

အိမ်ရှင်အဘိုးမှာ ကျော်ကျော် ခုန်တက်လိုက်သောအားဖြင့် မထိန်း နိုင်တော့ပဲ ရှေ့သို့ အားငိုက်စိုက်ကျသွားကာ စားပွဲစောင်းနှင့် သွားဆောင့် ပါတော့သည်။

ဒုန်း..................

ကျော်ကျော် အိမ်ရှင်အဘိုးပေါ်မှ ကုန်းရုန်းထပြီး အိမ်ရှင်အဘိုး၏ နောက်ကနေပြီး အခြေအနေကို အကဲခတ်လိုက်တော့ မလှုပ်တော့၊

“အဘိုး....အဘိုး..”

ကျော်ကျော် ကြောက်က ကြောက်သေးသည်။ အဘိုး လုပ်သူကိုလဲ ဘေးကနေပြီး လှုပ်နိုးကာ ကြည့်ရသေးသည်။

“ဟာ....ကွိုင်ပဲ သေရင်တော့ ငါတော့ပြဿနာပဲ”

ကျော်ကျော် မှောက်ယက်လဲနေသော အိမ်ရှင်အဘိုး၏ နှာဝအနားသို့ လက်ဖြင့်တေ့ကာ စမ်းကြည့် လိုက်တော့သည်။

“ဟော...အသက်ရှူသေးတယ်”

ကျော်ကျော် အိမ်ရှင်အဘိုးအား ပက်လက်လှန်ပေးလိုက်ပြီး ထားခဲ့ပြီးမှ အခန်းထဲက အသာထွက်ခဲ့တော့သည်။ အိမ်ကြီးထဲတွင် လူမများပဲ ရှိသည်အသိတစ်ခုက ကျော်ကျော်အတွက် စိတ်သက်သာစေသည်။ အိမ်ရှင်အဘွားသည် ဖာ့ဇလီကို အိမ်အောက်ခန်းသို့ ထည့်ရန်ပြောခဲ့သဖြင့် ကျော်ကျော်မှာ အိမ်အောက်ခန်းသို့ လိုက်ကာ ရှာရပါတော့သည်။ အိမ်ကြီးက ပြောသလောက်မကျယ်ပေမယ့် သူစိမ်းတစ်ယောက် အတွက်တော့ အခန်းတစ်ခုက တစ်ခုကိုရှာရန်မှာ ထင်သလောက်မလွယ်ကူချေ။

ဖာ့ဇလီမှာ မတ်တက်အနေထားဖြင့် ချည်နှောင်ထားခြင်းကိုလည်း ခံနေရပါသည်။ အိမ်ရှင်အဘွားမှာ ဖာ့ဇလီမြင်ကွင်း သိပ်မကွာသော အကွာဝေးတစ်ခုမှနေကာ မီးဖိုးတစ်ခုကို မီးအားကောင်းရန် လုပ်ဆောင်နေပါသည်။ မီးဖို၏ အပေါ်မှာရှိသော ရေအိုးထဲကိုလည်း ဘာအရွက်တွေမှန်းမသိသော အရွက်တစ်ချို့ကို ထည့်နေတာလဲ တွေ့ရသည်။ ဖာ့ဇလီ

သည် မှုးဝေကာ ကြည့်နေမိသည်။ ထိုအရွက်မှ ထွက်သော အနံ့များက လူကို မူးဝေစေသည်ဟု ဖာ့ဇလီ စိတ်မှာခံစားရသည်။

ဖာ့ဇလီကို တိုင်တွင်ချည်ထားကာ ခြေထောက်ကိုလဲ ကြိုးတုတ်ထား သဖြင့် လှုကယိုင်ချင်လာတော့သည်။ အိမ်ရှင်အဘွားသည် မျက်နာကို အောက်သို့ကြည့်နေရင်းက မျက်ရည်တစ်ချို့ကျသွားသည်ဟု ဖာ့ဇလီ ထင်မိသည်။

"အဘွားကို ခွင့်မလွှတ်ပါနဲ့ ကလေးရယ် ....အဘွားမလုပ်ချင်တဲ့ အလုပ်တွေကို လုပ်နေရပေမယ့် အဘွားရဲ့ သား အတွက်ပါ ကလေးရယ်"

ဖာ့ဇလီ စိတ်မကောင်းပါ၊ သူ့အတွက်တော့မဟုတ်ပါ၊ မိခင် တစ်ယောက်ရဲ့ မေတ္တာ၊ သားဆိုးအပေါ်ထားတဲ့ မေတ္တာ၊ သူမ၏ စိတ်များသည် သား အပေါ်မှာသာ တည်ရှိနေပြီး တစ်ခြားမည်သည့်အရာများလဲ မမြင်ပါတော့ ချေ။ ထိုအတွက်ကြောင့် ဖာ့ဇလီ အိမ်ရှင်အဘွားအတွက် စိတ်မကောင်း ဖြစ်ရပါသည်။ မိမိသည် သူမအား အားပေးစကားများ ပြောချင် ပါသော်လည်း ပြောခွင့်မရပါ၊ သူ၏ ပါးစပ်များကို ချည်နှောင်းထား ၍ဖြစ်ပါသည်။

ထိုအချိန်ဝယ် အပေါ်လှေကားမှ တံခါးပွင့်ကာ ဆင်းလာသော လူရိပ်တစ်ခုကို တွေ့လိုက်ရပါသည်။ ဖုဇလီမှာတော့ မူးဝေနေသဖြင့် မည်သူဘယ်ဝါ မသဲကွဲယ်တော့ချေ။ စိတ်ထင် အိမ်ရှင်အဘိုးပဲ ဖြစ်မည်ဟုပင် တွေးမိပါသည်။

အိမ်ရှင်အဘွားသည်လဲ သူမ၏ ခင်ပွန်းဖြစ်မည်ထင်၍ လှည့်မကြည့်ပဲ ပြောလိုက်သည်။

“ဘယ်လိုလဲ အပေါ်ကဘာဖြစ်တာလဲ”

ပြန်ဖြေသံ မကြားသဖြင့် အိမ်ရှင်အဘွားသည် လှည့်ကြည့်လိုက်တော့ အိမ်ရှင်အဘိုးမဟုတ်ပဲ ကျော်ကျော်ဖြစ်နေသည်ကို တွေ့လိုက်ပါတော့သည်။

“ဟင် မင်းမင်း ....”

ဟု တအံ့သြဖြစ်ကာ လက်မှကိုင်ထားသော ဓါးဖြင့် ကျော်ကျော်ထံသို့ တဟုန်းထိုး ပြေးလာပါတော့သည်။ ကျော်ကျော် လှေကားမှ ခုန်ဆင်းလိုက်ပြီး တိုင်ဘက်သို့ ပတ်ပြေးသည်။ ကျော်ကျော် စိတ်ထဲတွင် အဘွားအိုကို မလုပ်ရက်ပါ၊ သူ့အနေနဲ့ ရှောင်ကာ ပတ်ပြေးနေရပါတော့သည်။ အခန်းသည်လည်း မီးခိုးများ အငွေ့များဖြင့်

ထုံမွှန်းနေတော့သည်။ ကျော်ကျော်မှာတော့ သတိကြီးစွာ ရှောင်ပတ်နေရပါတော့သည်။

ဒုန်း.....ဝရော.....

အိမ်ရှင်အဘွားသည် ကျော်ကျော်ကို လိုက်ရင်က ခလုတ်တိုက်ကာ လဲကျသွားပြီး ပြန်မထလာတော့။ ကျော်ကျော် ရသည့် အခွင့်အရေးကို ယူကာ ဖာ့ဇလီထံပြေးသွားကာ ကြိုးများကိုဖြေပေးလိုက်ပါတော့သည်။ ကြိုးများ ပြေကျသွားသော်လည်း ဖာ့ဇလီမှာ မူးဝေနေသဖြင့် လဲကျသွားတော့သည်။

"ဖားဇလီး....ဖားဇလီး...သတိထားလေ"

"ဟင်...ကြောင်ကြောင်လာ..."

"အေးဟုတ်တယ် မင်းရဲ့တစ်ဦးတည်သော ကြောင်ကြောင်ပဲ"

"မင်းရောက်လာလို့ ငါဝမ်းသာလိုက်တာ ငါယုံကြည်နေပါတယ် မင်းငါ့ကို လာကယ်မယ် ဆိုတာကိုပေါ့"

"အင်းပါကွာ အခုငါလာပြီးလေ သတိထားပါအုံး ပြီးရင် ငါတို့ဒီကနေပြီး အမြန်ထွက်ရအောင် အခြေနေ မကောင်းဘူး အိမ်ရှင်သားက ပြန်လာနိုင်တယ်လေ"

ကျော်ကျော် ဖာ့ဇလီ ကိုတွဲကာ လှေးကားမှအတက်တွင် အိမ်ပေါ်ထက်မှ ခြေသံများ လူလှုပ်ရှားသံများကို ကြားလိုက် ရတော့သည်။

"အဖေ…အဖေ….အမေရော ပြီးတော့ ဟိုကောင်းလေးတွေရော အဖေကို ဟိုကောင်းလေးတွေ လုပ်သွားတာလာ"

ကျော်ကျော် ထိတ်လန့်သွားတော့သည်။ အိမ်ရှင်သား ပြန်ရောက် လာပြီထင်သည်။ ထို့ကြောင့် ကျော်ကျော် ဖာ့ဇလီ ကိုတွဲကာ ဆေးအိတ် များထားသည့် ဂိုဒေါင်ထဲမှ အကာကွယ်ယူပြီး ဖာ့ဇလီကို ထားပြီးမှ အိမ်အောက်မှာ ထွန်းထားသည့် မီးလုံးကို ရိုက်ခွဲလိုက်တော့သည်။ ထိုအမှောင်သည် ကျော်ကျော်တို့အတွက် ကောင်းသော ပုန်းရှောင်ရမည့် အကောင်းဆုံးပဲမဟုတ်လား။

အိမ်ပေါ်ထက်မှ လူသုံးယောက်ခန့်ဆင်းလာပါတော့သည်။ အမှောင်ထဲမှ မီးဖိုးအလင်းအားဖြင့် အဘွား လဲကျနေတာကို မြင်တွေ့သွားပါ တော့ သည်။

"ဟာ…အမေ..အမေ"

အိမ်ရှင်အဘွား၏ သားဖြစ်ဟန်တူသည့် တစ်ယောက်က အဘွားအိုနားသို့ ပြေးသွားပါတော့သည်။

“အမေ…အမေ..ဟာလုပ်ပါအုံးဗျာ ကျွန်တော်အမေကို ခေါ်လို့မရတော့ဘူး”

အဘွားကို လှန်ကြည့်လိုက်တော့ လဲကျသွားချိန်တွင် သူမကိုင်ဆောင်ထားသော ဓါးဖြင့် သူမ၏ရင်ဝတွင် ထိုးစိုက်လျက် တွေ့လိုက်ရပါတော့သည်။

“အား………… အမေ….. အမေရယ် ကျွန်တော်ကြောင့်ဖြစ်ရတာ ကျွန်တော်ကြောင့်…ဟင်…ဘယ်ရောက်သွားကြပြီးလဲ ဒင်းတို့တော့ သေဘို့သာပြင်ထား”

“သားလေး…..”

“ဟင်.. အမေ… အမေ.. သတိရလာပြီး လုပ်ကြပါအုံး ကျွတော် အမေကို ဆေးရုံးပို့ဘို့လုပ်ကြပါအုံး”

အဘွား၏ သားဖြစ်သူက ပူပန်သောကများဖြစ် ပျာယာခတ်နေသလောက် သူနှင့်အတူပါလာသည့် လူနှစ်ယောက်ကတော့ သွေးအေးစွာ အေးအေးဆေးဆေး ကြည့်နေပါတော့သည်။

“မင်းရူးနေလား ဒီလောက်ရွာမှာရဲတွေ လှည့်နေတာ ဘယ်လိုခေါ်ထုတ်သွားရမှာလဲ ဆေးရုံးကို ”

"အင်းဟုတ်တယ် ပြီးတော့ဒီရွာထဲကို ဝင်လာတာတောင်မှ ဘယ်လို ဝင်လာရတယ် ဆိုတာမင်းအသိဆုံး မအချင်စမ်းနဲ့ ငါတို့အားလုံး ကိုယ့်သေတွင်း ကိုယ်တူးသလို ဖြစ်နေမှာပေါ့"

"ဟင်...ခင်များတို့ ကိုယ်ချင်းစာစိတ် မရှိကြဘူးလား"

"အပိုတွေပြောမနေနဲ့ ဟိုကလေးနှစ်ယောက်ကိုသာ ရှားစမ်း"

"ဒီမှာကျုပ်အမေ တစ်ယောက်လုံး ဒဏ်ရာကြီးနဲ့ဖြစ်နေတာကို ခင်များတို့ဗျာ"

"ဒါမင်းလုပ်တဲ့ ပေါ့စမှုကြောင့်ပဲလေ ဟိုကောင်လေးတွေ မလွတ် သွားဘို့က အရေးကြီးတယ် သွားစမ်း ဟိုအဘိုးကြီးကိုခေါ်လာခဲ့ သူကိုမေးရမယ် ဘယ်အချိန်ဖြစ်သွားလဲလို့ အချိန်မရှိဘူး"

ခေါင်းဆောင်ဖြစ်ဟန်တူသည့် တစ်ယောက်က အမိန့်ပေးလိုက်သဖြင့် ကျန်တစ်ယောက်က အပေါ်သို့ တက်သွားပါတော့သည်။

"သားလေး.......အမေ့သားလေး...."

"ဗျာ.. အမေရယ် စကားသိပ်မပြောနဲ့သိလား မောနေမယ်"

"သားလေးသာ ဘာမှမဖြစ်ပါစေနဲ့သားရယ် အမေက သားအတွက် အမေ့မေတ္တာတွေသာ ပေးနိုင်တာပါကွယ်"

"အို…အမေရယ်"

အဘွားရဲ့သားသည် အဘွားအားဖက်ကာ ရှိုက်ကြီးတငင် ငိုနေပါတော့သည်။ ကျော်ကျော်တို့မှာလဲ ပုန်းနေရာကနေပြီး အတိုင်းသာမြင်နေရသည့် မြင်ကွင်းကိုကြည့်ကာ ကြောက်ရွံ့စိတ်မကောင်းစွာ ဖြစ်နေရပါသည်။ ကျော်ကျော် အနေဖြင့် မိမိကြောင့် အသက်ကြီးသော အဘွားအား စိတ်မကောင်းဖြစ်မိပါတော့သည်။ ကျော်ကျော်ကြောင့် လူတစ်ယောက် အသက်ကို ထိခိုက်မိစေသည် မဟုတ်လား။

အဖေါ်ပါလာသည့် ဓားပြတစ်ယောက်မှာ အခန်းထဲ လှည့်ပတ်ကြည့်နေရင်းက ကျော်ကျော်တို့ ပုန်းနေသည့် နေရာသို့ ခြေလှမ်းများ တစ်ရွေ့ရွေ့ဖြင့် လှမ်းကာ လာသည်။ လက်ထဲမှာလဲ သေနတ်ကြီးဖြင့်….

ကျော်ကျော်တို့ပုန်းနေရာသို့ ဓားပြခေါင်းဆောင်ဟု ထင်ရသောသူသည် ခြေလှမ်းများ တစ်ရွေ့ရွေ့လှမ်းလို့ လာပါသည်။ ကျော်ကျော်နှင့် ဖှဲဇလီမှာ ဇောချွေးများပျံကာ အသက်ပင် မရှူနိုင်တော့ ကြည့်ရင်းက လန့်လာသည်။ လေး၊ ငါး လှမ်းလောက်အလိုတွင်တော့ ကျော်ကျော် လှုပ်တောင်မလှုပ်ရဲတော့ချေ။ ဖှဲဇလီဆို ကျော်ကျော် လက်ကို ဆုပ်ကိုင်ထားသည်မှာ နာကျင်လှပါသည်။ ကျော်ကျော်လက်မှာ ကြိုးများလွတ်မြောက်ရန် ရုန်းကန်ထားသောကြောင့် မီးလောင်အပူနှင့် ပွန်းပဲ့နေသဖြင့် ဖှဲဇလီ

ဆုပ်ကိုင်ထားသောကြောင့် ပိုနာကျင်လာသည်။ ကျော်ကျော် အသံပင် မထွက်ရဲ အံကြိတ်ကာ ခံနေရပါတော့သည်။

ဓားပြ၏ ခြေလှမ်းများရပ်တန့်သွားသည်။ ကျော်ကျော်တို့ကံကောင်းသည် ဟုပြောရမည်လား...၊ အပေါ်သို့တက်သွားသော ဒမြတစ်ယောက်နှင့်အတူ အိမ်ရှင်အဘိုးလည်းလိုက်လာပါသည်။

"အိမ်ရှင် အဘိုးကြီးကပြောတယ် ဆရာ၊ ကောင်းလေးတွေ ထွက်ပြေးသွားတာ ဆယ့်ငါးမိနစ် လောက်ရှိပြီးတဲ့"

"ဟေ...ဟုတ်လား..ဒါဆို ဒီကောင်တွေရွာထဲ ရောက်ရင်ဒုက္ခပဲ နေပါအုံး ဘယ်လမ်းကထွက်ပြေးသွားတာလဲ"

အိမ်ရှင်အဘိုးကိုကြည့် ၍မေးလိုက်ပါသည်။ အိမ်ရှင်အဘိုးသည် မိမိဇနီး နှင့်သားအား တစ်ချက်တွေဝေစွာ ကြည့်လိုက်ပြီး လက်ကို အိမ်နောက် ဘက်သို့ ညွှန်းလိုက်ပြီး ဖြေလိုက်သည်။

"နောက်ဖေး လမ်းဘက် တောထဲကို ပြေးတာ ဒီကလေးတွေ ရွာလမ်းကို မသိပါဘူး"

"ဟာ... တော်သေးတာပေါ့ လာဟေ့...ငါတို့အချိန်ရှိတုန်း လစ်ကြဆို့ ဟေ့ကောင်ဇံပ ဘာလုပ်နေတာတုံး မင်းပါ လိုက်ခဲ့ရမယ်"

“ခင်များဗျာ ကျွန်တော့ မိခင်တစ်ယောက်လုံး ဒဏ်ရာရနေတာကို”

“ဟော့ကောင် စကားကြောမရှည်နေနဲ့ မင်းအပြစ် မင်းသိတယ်နော် အေးကျန်တဲ့သူတွေ ဒုက္ခမရောက်စေချင်ရင်တော့ မင်း အေးအေး ဆေးဆေး လိုက်ခဲ့”

ခက်ထန်သော အကြင်နာကင်းသော ဓားပြ၏အသံများကို ကြားရတော့ ဇံပနော် (အိမ်ရှင်သား) မှာအံတကြိတ်ကြိတ် နှင့်မိခင်ကို တောင်းပန်သလို ကြည့် ရှာသည်။

“မင်းလိုက်သွားလိုက်ပါ ငါရှိပါတယ် သားရယ်”

အဘိုး၏ မချိတင်စကားကို နားထောင်ရင် သားဖြစ်သူ ဇံပနော်မှာ ထလိုက်သွားတော့သည်။ ထိုနောက်တွင် ကျော်ကျော်နှင့် ဖော့ဇလီ မှာ အသက်ကို ဝအောင်ရှူနိုင်တော့သည်။ အိမ်ရှင်အဘိုးကိုပင် ကျေးဇူး တင်မိသည်။ အိမ်ရှင်အဘိုးသည် ဇနီးသည် အိမ်ရှင်အဘွားကို ဖက်ကာ ထားရင် မျက်ရည်များကျနေသည်။

ဓားပြများထွက်သွားပြီး စိတ်ချရတဲ့အချိန်ကျမှ အိမ်ရှင်အဘိုးဆီမှ အသံ ထွက်လာပါသည်။

"မင်းတို့တွေ ဒီထဲမှာရှိသေးတယ်ဆိုတာ အဘိုးသိတယ်ကွယ့် ထွက်လာခဲ့ကြတော့ သူတို့လည်း သွားကုန်ပြီး၊ သူတို့တွေ ပြန်မလာခင်အချိန်မှာ မင်းတို့ ဒီကထွက်မှရမယ်"

အိမ်ရှင်အဘိုး၏ စကားသည် ကျော်ကျော် နှင့် ဖှာ့ဇလီ အတွက် မင်္ဂလာရှိသော စကားပင်ဖြင့်ပါတော့သည်။ ကျော်ကျော်နှင့် ဖှာ့ဇလီ မှာ ချောင်ထဲမှ တွန့်ဆုတ် တွန့်ဆုတ်ဖြင့် ထွက်လာပါတော့သည်။ အဘိုးမှာ သူတို့ကိုပင် လှည့်မကြည့် သူ၏ ချစ်လှစွာသော ချစ်ဇနီးကိုပင် ကြည့်နေရှာသည်။

"ကျွန်တော် တောင်းပန်ပါတယ် အဘိုး၊ အဘွားကိုလေ ကျွန်တော်တို့ ဒီလိုမရည်ရွယ်ပါဘူး အဘိုးရယ်"

"အင်း အဘိုးသိပါတယ် ကံပေါ့ကွယ် မကောင်းမှုက စိတ်ကွယ်ရာမှမရှိတာကိုး ကဲကဲသားတို့ သွားကြတော့၊ လမ်းရှေ့ဘက်ကထွက်ပြီးရင်ညာဘက်ကွေ့ပြီး နည်းနည်းကြာလောက်နေရင် ရွာထဲရောက် မယ်ကွယ့်၊ ရွာထဲမှာ ရဲတွေ လှည့်နေကြတုန်းပဲ အဲဒီအခါကြရင်တော့ သားတို့လွတ်ပြီးပေါ့ကွယ်"

"ကျွန်တော်တို့ အဘွားကို ကယ်မှာပါအဘိုး အမြန်ဆုံး ဖြစ်နိုင်အောင် ကြိုးစားပါမယ်"

"ကျေးဇူးပါပဲ ကလေးတို့ရယ်"

ကျော်ကျော်ကို တွဲပြီးထကာ ပြေးရသည့် ဖာ့ဇလီမှာလဲ မသွက်လက်တော့၊ ကျော်ကျော်မှာ ရုန်းရင်းကနေ ခြေထောက်က ဒဏ်ရာခဲ့သည်က ပိုသည်။ လက်ကလဲ ပုန်းနေတုန်းက ဖာ့ဇလီမသိဘဲ ဖိလိုက်မိသည့် အတွက် တော်တော်လေကို စပ်ပြီးနာနေသည်။ ဖာ့ဇလီလဲ ခုမှ ကျော်ကျော်အနာတရ ဖြစ်နေသည်ကို သိရှိသွားသည်။ ဒီအချိန်မှာ တော့ မနှစ်သိမ့်ပေးနိုင်တော့ချေ။ ကျော်ကျော်ကိုတွဲပြီး အိမ်ထဲမှ ထွက်ခဲ့ကြပြီးနောက် အဘိုးပြောသည့် လမ်းအတိုင်း ရွာဘက်ကို ထွက်လာခဲ့ကြသည်။

ကျော်ကျော် နှင့်ဖာ့ဇလီ မှာရွာထဲဘက်သို့ အသည်းအသန် ပြေးခဲ့ကြတော့သည်။ ပြေးရင်းက ကျော်ကျော် ပြေးလို့မကောင်းတော့ ကျော်ကျော် ခြေထောက်တွေ နာကျင်လှပါသည်။ ခြေချင်းဝတ်မှာ နာကျင်လှပြီး ပြေးရန် ခက်ခဲလာတော့သည်။

"ဖာဇလီး"

"ဟင်ဘာလဲကြောင်ကြောင် လာလေပြေးမယ်လေ"

"ငါခြေထောက်တွေ တအားနာလှပြီး ပြေးလို့မကောင်းတော့ဘူး"

"ဟာ... အားတင်းထားပါကွာ ငါမင်းကိုကျောပိုးပြီးပြေးမယ်"

"နေနေ.... မပဟုတ်တာ... ဒီအချိန်မှာအကောင်းဆုံးက မင်းပြေး လိုက်တော့ မင်းရွာထဲရောက်ရင် ရဲတွေခေါ်ပြီး ပြန်လာခဲ့ပေါ့ ငါလဲ ဖြေးဖြေးချင်လိုက်လာမယ်"

"မင်းတစ်ယောက်တည်း...."

ဖာ့ဇလီ ရှေ့ဆက်ပြောမည်ကို ကျော်ကျော် လက်ဖြင့် ဖာ့ဇလီ၏ နှုတ်ခမ်းကို တားလိုက်သည်။

"ဘယ်ခရီးက ဘာအကောင်းဆုံးဆိုတာ မင်းသိပါတယ် ဖားဇလီး ရယ် နော်..."

ဖာ့ဇလီ ကျော်ကျော်အား စိတ်မကောင်းသလို ကြည့်ပြီး တစ်ချက် ပါးပြင်ကို နမ်းကာ

"ငါပြန်လာခဲ့မယ် မင်းဘာမှစိတ်ပူနဲ့"

ကျောကျော် ဖာ့ဇလီ ကိုပြုံးကာ ခေါင်းညိတ်ပြလိုက်ပါတော့သည်။ ဖာ့ဇလီ မှာကျော်ကျော် ကို တစ်ချက် နောက်ပြန်လှည့်ကြည့်လိုက်ကာ ပြေးထွက်ခဲ့ပါတော့သည်။ သူပြေးလိုက်ရသည်က လေးငါးမိနစ်လောက် ပဲကြာမည် ရှေ့တည့်တည့်မှ ဓါတ်မီးရောင်များ မြင်လိုက်ရ၍ အား တက်သွားကာ

“ဟေး....ဟယ်လို.....ကယ်ကြပါအုံး.... ကယ်ကြပါအုံးခင်ဗျာ”

ဖှဲ့ဇလီ လှမ်းအော်ကာ အားကုန်ခေါ်လိုက်သံကြောင့် ဓါတ်မီးရှင်များ နှင့် တစ်ချို့သော လူများက ဖှဲ့ဇလီရှိရာဆီသို့ အပြေးလာခဲ့ကြတော့သည်။ ဖှဲ့ဇလီ ထံပြေးလာသော ရဲသားများက ၃ယောက် ရှိပါသည်။ သူတို့လဲ ဖှဲ့ဇလီ ကိုတွေ့တော့ အားရဝမ်းသာ သတင်းပို့ကြပါတော့သည်။ ဖှဲ့ဇလီ ထံရောက်လာသော ရဲသုံးယောက်မှာ လဲပျာယာခတ်ကာ ဆက်သွယ်မှုများ ပြုလုပ်နေကြပါတော့သည်။

အဘိုးပြောသည့်နေရာသို့ သွားရှာနေသည့် ဓားပြသည် အိမ်ရှင်အဘိုး ပြောလိုက်သော ကြောင့်လမ်းနောက် တောဘက်သို့ လှူခွဲလိုက်ရှာ နေတုံး ဖှဲ့ဇလီ၏ ရဲများအား အကူညီတောင်းသော အသံကို ကြားလိုက်ရသဖြင့် ရွာဘက်သို့အမောတကော ပြေးလိုက်ပါသည်။

“နောက်မှာ ကျွန်တော်သူငယ်ချင်း ရှိသေးတယ် သူ့ကိုပြန်ခေါ်ရမယ် လိုက်ခဲ့ကြပါ”

“မင်းနေခဲ့ ငါတို့သွားခေါ်မယ်”

ဖှဲ့ဇလီ ကို ရဲတစ်ယောက်နှင့်ထားခဲ့ပြီး ကျန်နှစ်ယောက်က သွားခေါ်ရန် ပြောသောအခါ ဖှဲ့ဇလီ လက်မခံ...

"မဟုတ်ဘူး ကျွန်တော် ကိုယ်တိုင်လိုက်မယ် သူကဒီနိုင်ငံသား မဟုတ်ဘူး"

"ကိုယ်တို့တွေ သိပါတယ်"

"မရဘူး ကျွန်တော် လိုက်မှဖြစ်မယ်"

ဖာ့ဇလီ အတင်းပြောနေသဖြင့် ရဲသားသုံးယောက်နှင့် အတူဖာ့ဇလီ ကျော်ကျော်ဆီသို့ လှည့်ပြန် ပြေးလာခဲ့ကြတော့သည်။ ကျော်ကျော် အနားရောက်တော့ ကျော်ကျော်မှာ ငုတ်တုတ်လေး ထိုင်ကာ အမော ဖြေနေတာကို ဖာ့ဇလီ ဝမ်းသာအားရ သွားပွေ့ဖက်လိုက်မိသည်။

"ငါတို့တွေ လွတ်ပြီးသိလား ငါတို့တွေလွတ်ပြီး ကြောင်ကြောင်ရ"

ဖာ့ဇလီ ဝမ်းသာမျက်ရည်များ ကျကာ ကျော်ကျော်ကို ဖက်မိပါသည်။ ကျော်ကျော် သည်လည်း ဝမ်းသာမျက်ရည်များ နှင့်ပျော်ရွှင်နေမိပါသည်။ ထိုသို့သူတို့ နှစ်ယောက် ဖက်နေကြတုံးမှာ ရဲတွေကလဲ ဆက်သွယ်ရေး ဖုန်းများဖြင့် အလုပ်ရှုပ်နေပါတော့သည်။

ရဲသားသုံးယောက် နှင့်ကျော်ကျော် တို့ရွာထဲသို့ပြန်ဝင်လာချိန်မှာ ရွာဘက်က ကားများဖြင့် ကျော်ကျော်တို့ ရှိသည့်ဘက်သို့ လာနေကြသော ရဲကားများ ဆေးရုံးကားကိုလဲ တွေ့ရပါသည်။ ဖာ့ဇလီ မှာကျော်ကျော် လက်ကို တွဲထားရင် ပြုံးပြရှာသည်။

နောက်က လိုက်လာသည့် ဓားပြမှာ ကျော်ကျော်တို့ကို မြင်လိုက်ရသော မြင်ကွင်းက ရဲသုံးယောက်က ကောင်းလေးတွေကို ဘေးမှဝိုင်း၍ ခေါ်ဆောင်သွားချေပြီး၊ ထိုကောင်းလေးတွေ လွတ်သွားလျှင် သူ့၏ အသိုက်မြုံ ကလေးပျက်စီးတော့မည်အသိက ဝင်လာကာ မိမိအသက် ထက် မိသားစုအသက် ကိုငဲ့ပြီး ဝန်ကြီး၏ မြေးဖြစ်သူအား ချိန်ရွယ်၍ ပစ်ချလိုက်ပါတော့သည်။

ကျော်ကျော် နောက်ကျော မလုံသဖြင့် နောက်ပြန်လှည့်ကြည့်လိုက်တော့ ဓားပြ သုံးယောက်မှ ခေါင်းဆောင်ဖြစ်သူဟု ထင်ရသော လူတစ်ယောက် ကို တွေ့လိုက်သည်။ ထိုသူသည် သူတို့ဘက်ကို လက်ထဲမှ သေနတ်နှင့် ချိန်ကာပစ်ရန် ရွယ်လိုက်သဖြင့် ဖာ့ဇလီကို တွန်းထုတ် ပစ်လိုက် ပါတော့သည်။

ဒိုင်း......................

အ.....................

ကျော်ကျော်နှင့် ဖာ့ဇလီ လုံးထွေးကျသွားချိန် နောက်မှ ဓားပြ ပစ်လိုက်သောကျည်မှာ လျှော်သွားပြီး ကျော်ကျော်၏ လက်မောင်းသို့ ပွတ်ဆွဲသွားပါတော့သည်။ ဖာ့ဇလီ မှာလဲ ဟန်ချက်ပျက်သွားကာ မြေပြင်နှင့် မျက်နာကို ဝင်ဆောင့်သည်။ ထိုအချိန်က ကျော်ကျော်

ရင်ထဲတွင် ဖာ့ဇလီ ကိုစိုးရိမ်းစိတ်များဖြင့် ကာကွယ်လိုက်ခြင်း ဖြစ်ပါသည်။ သူ၏နှလုံးသား အသိထဲတွင် ဖာ့ဇလီကို တစ်စုံတစ်ရာ ထိခိုက်မည်ကို လုံးဝမလိုလားပါ။

ရဲများလဲ ပစ်လိုက်သော ဓားပြများအား ကျဉ်များ ပစ်သွင်းလိုက်ပါတော့သည်။

ဒိုင်း.......ဒိုင်း.......

ထိုဒမြသည် ထိုနေရာမှာပင် ဆုံးသွားရှာသည်။ ရဲကားများ ဆေးရုံကားများ ရောက်လာကြတော့ ကျော်ကျော် မြေပြင်တွင် ပြန်မထနိုင်ချေ။ လက်မောင်းက တော်တော်လေ ကိုနာလှပါသည်။

အခြေအနေ အားလုံး အေးဆေးဖြစ်သွားပါတော့သည်။ ဖာ့ဇလီက သူ့အားကယ်ခဲ့သော အိမ်ရှင် အဘိုးနှင့် အဘွားကို ရဲများကိုပြောပြသည်။

"အဘိုးနဲ့အဘွားက ကျွန်တော်တို့ကိုကယ်လို့ ကျွန်တော်တို့အသက်ရှင်နေတာ အခုသူတို့လဲ ဒဏ်ရာတွေရနေတယ် မြန်မြန်ကယ်ကြပါ"

သူတို့နှစ်ယောက်ရဲ့ အတင်းတိုက်တွန်းမှုကြောင့် ဆေးရုံ အရေးပေါ်ကားကိုလဲ အဘွားဆီသို့ လွှတ်လိုက်ရသည်။ ဆေးရုံကား ရောက်ချိန်

မှာတော့ အဘွားမှာ မေ့မျောချင်သော အချိန်သို့ပင် ရောက်နေပြီး ဖြစ်သည်။ အဘွားကို အချိန်မှီ ဆေးရုံးသို့ ပို့ပေးနိုင်ရှာသည်။

ရွာတစ်ခုလုံးလည်း ဆူညံပွက်လောတွေ ရိုက်ကုန်ကြသည်။ ကျော်ကျော်နှင့်အတူ အဘိုး၊ အဘွားတို့သည်လဲ ဖာ့ဇလီရဲ့ အဘိုးဝန်ကြီးကြောင့် ဆေးရုံသို့ အမြန်ရောက်ခဲ့ကြတော့သည်။ အဘွားသည် အသက်အန္တာရာယ် မစိုးရိမ်ရတော့ပါ။

ဖာ့ဇလီ၏ ဝန်ခံပြောဆိုမှုတွင် အဘိုးနှင့် အဘွားက သူတို့အသက်ကို ကယ်ခဲ့သည်ဟု ပြောသဖြင့် ဝန်ကြီးမှ အဘိုးနှင့်အဘွားအား လက်ဆောင်များနှင့် ဆုငွေများ ချီးမြှင့်လိုက်သည်။

ကျော်ကျော် ကတော့ ဖာ့ဇလီ၏ အားကိုးဖြင့် ဆေးရုံးအကောင်းစား တွင် ဖာ့ဇလီ နှင့်အတူ တက်ခွင့်ရခဲ့သည်။ ကျော်ကျော်၏ လက်များကို ကြည့်ကာ ဖာ့ဇလီကတော့ စိတ်မကောင်းပါ။ ဖာ့ဇလီ အဘိုးမှာလဲ ဖာ့ဇလီ လွတ်မြောက်လာသည်အတွက် ဝမ်းသာပီတိဖြစ်လို့ကာ ဖာ့ဇလီ စိတ်သဘောအတိုင်း လုပ်ဆောင်ပေးတော့သည်။ ခြေထောက်မှ ဒဏ်ကလဲ တော်တော်ပြင်းသည့်အတွက် လမ်းလျှောက် ဟိုနားဒီနား သွားရန်အတွက် ဝီလ်ချဲကို အသုံးပြုနေရသည်။

ဖာ့ဇလီမှာ ဒါဏ်ရာပြင်းပြင်းထန်ထန် ဘာမှမရှိသည့်အတွက် သူကဦးစွာ သက်သာကာ ဟိုဟိုဒီဒီ သွားလာနေတော့သည်။ ဖာ့ဇလီနှင့် ကျော်ကျော် လည်း အဘွားအား တောင်ပန်ကာ သွားရောက်အားပေး စကားများ ပြောဆိုခဲ့ကြပါသည်။ ထိုအချိန်အထိ ကျော်ကျော်မှာတော့ ဝီလ်ချဲပေါ်က မဆင်းရသေးပါ၊ ခြေချင်းဝတ်မှ ဒဏ်ရာများ အနည်းငယ်ကျန်သေးသဖြင့် လမ်းကောင်းစွာ မလျှောက်နိုင်သေးသည့်အတွက် ဖြစ်သည်။

သေဆုံးသွားသော ဓားပြမှ ခြေရာခံကာ လိုက်သဖြင့် သတင်းတစ်ချို့ တစ်ဝက်ကို ရရှိခဲ့ပါသည်။ ကျော်ကျော် ပိုက်ဆံအိတ်လည်း ပြန်ရခဲ့သည်။ ကျော်ကျော် ကုမ္ပဏီကလည်း လိုက်လာကာ ကျော်ကျော် အတွက် ခံစားခွင့် ရှိသည်များကိုလည်း ပေးဆောင်ပါသည်။ ကျော်ကျော် ကံကောင်းပါသည် ဟုပြောရမည်။ ဝန်ကြီး၏ မြေးဖြစ်သူကို ကူညီကယ်မ ပေးခဲ့သော အကျိုးကျေးဇူးကြောင့် ကျော်ကျော်ကို မှတ်တမ်းတင် ဂုဏ်ပြုဆောင်များဖြင့် ဂုဏ်ပြုကြပါသည်။

"ကြောင်ကြောင် ရော့"

"ဘာလဲ ဖားဇလီး"

"မင်းပိုက်ဆံအိတ်လေ"

"အော်…အင်း…"

ပိုက်ဆံအိတ် လာပေးတုန်းက ဖာ့ဇလီ မျက်နှာမကောင်းတာကို ကျော်ကျော် သတိထားမိသည်။

“မင်းအဲဒီထဲက ကောင်းမလေးနဲ့ ဘာတော်လဲ”

“ဘယ်သူလဲ”

“ဓါတ်ပုံ ပါတယ်လေ”

“အော်...အဲဒါနှင်းနွဲ့တဲ့”

ထိုမှ အစချီကာ နှင်းနွဲ့နှင့်ကွဲကွာလာတုံး ဖာ့ဇလီနှင့်တွေ့ဖြစ်သည့် အကြောင်းများကို ပြောပြလိုက်သည်။

“ခုတော့ သူလဲ နောက်တစ်ယောက်နဲ့ ရှိနေပြီလေးကွာ”

ထိုအခါမှ ကိုယ်တော်ချောက ပြုံးဖော်ရသည်။

“ဟုတ်လား ငါတော့အဲဒီကောင်မလေးကို ကျေးဇူးတင်ရမယ်”

“ဘာဆိုင်တုံးဟ”

“ဆိုင်တာပေါ့...မင်းအဲဒီလိုဖြစ်လာလို့ ငါနဲ့တွေ့တာလေ”

“အေးပါကွာ မင်းကတော့လေ...ကံပေါ့ကွာ ကံကြုံလို့ ဆုံရတာပဲ”

“အင်း...မင်းပြောတဲ့ကံ ကိုပေါ့...ငါကျေးဇူးတင်တယ်သိလား”

“ဒါနဲ့မင်းဘယ်နေ့ ဆေးရုံးဆင်းမှာလဲ”

“ငါ မင်းဆင်းတဲ့နေ့မှဆင်းမှာ ငါကကောင်းနေပြီး မင်းရှိလို့ မဆင်းသေးတာ”

ကျော်ကျော် ပျော်ပါသည်။ သူ့အားဂရုတစိုက်ရှိလှသော ဖာ့ဇလီကိုလည်း ကျေးဇူးတင်မိပါသည်။ ကျော်ကျော်ပျော်ကာ ဖာ့ဇလီ ထံကပ်ကာ နမ်းရန် ပြင်လိုက်တော့...

“အာ...မလုပ်နဲ့ CCTV တွေရှိတယ်”

“အဟီး.....”

ကျော်ကျော် မှာတော့ ရှက်ရယ် ရယ်မိပါတော့သည်။ မနမ်းရတော့ အောင့်သက်သက်နှင့် မကျေနပ်ချေ။

ဖာ့ဇလီ၏ အားကိုးမှုဖြင့် ကျော်ကျော်မှာလဲ တော်တော်ကို ဇိမ်ရှိလှသည်။ ခုတော့ ကျော်ကျော်လဲ သက်ပြင်းချကာ အေးဆေးဖြစ်နေတော့သည်။

******

အခန်း (၅)

ဆေးရုံအတွင်း နေ့လည်က ဆေးအရှိန်များနှင့် ကျော်ကျော်နှင့် ဖာ့ဇလီမှာ အိပ်ပျော်နေသည်။ သူတို့အခန်းထဲကို တိတ်တဆိတ်ဖြင့် လူရွယ် တစ်ယောက် ဝင်လာခဲ့သည်။ တံခါးကို အသာလေးဖွင့်ပြီး ခြေဖော့ကာ ဝင်လာသူကတော့ ကျော်ကျော်တို့ အိပ်နေသည့် ဆေးရုံကုတင် နှစ်လုံးကြားရှိ အလွတ်တွင်ရပ်လျှက် သေချာအောင် ကြည့်နေသည်။

ညဘက်သို့ ရောက်ရှိချိန်၊ ပိတ်မှောင်နေသော ည၊ ဆေးရုံးကုတင်တွင် အိပ်မောကျနေသော လူငယ်ဘေးသို့ မျက်နာဖုံးစွပ်ထားသော လူရွယ် တစ်ယောက် ရပ်လို့နေသည်။ အိတ်တွင်းမှ ချွန်မျှနေသော ဓါးသွား တစ်လက်ကို ထုတ်ယူလိုက်ပြီး အိပ်နေသော ဖာ့ဇလီထံသို့ ထိုးချ လိုက်ပါတော့သည်။

ဒုတ်.............

ဝုန်း................

အသံများကြောင့် ဖာ့ဇလီနှင့် ကျော်ကျော် လန့်နိုးသွားကာ မီးများကို ဖွင့်ကြည့်လိုက်တော့၊ ကြွတ်သေသေဖြင့် လန့်မိသွားတော့သည်။ လူတစ်ယောက် မျက်နာဖုံးစွပ်ဖြင့် ဖာ့ဇလီနှင့် ကျော်ကျော်တို့ ကုတင် ကြားတွင် လဲကျနေသည်။ လူတစ်ယောက်ကတော့ လက်ထဲမှာ သံတုတ်

ဖြင့်မတ်တပ်ရပ်ကာ ထိုခေါင်းစွပ်အား ရိုက်လိုက် ဟန်တူပါသည်။ ထိုသူကတော့ အဘိုးအိုနှင့် အဘွားအို တို့၏သားဖြစ်သူ ဇံပနော်ပင် ဖြစ်ပါတော့သည်။

"ဟင်...ဘယ်လိုကနေပြီး ဘယ်လိုခင်များတို့က ဝင်လာတာတုံး"

ဟုတ်သည် ကျော်ကျော် တို့အံ့သြလဲ အံ့သြစရာ ဖာ့ဇလီ တို့ကို သူ့၏ အဘိုးမှ စိတ်မချ၍ အရင်လို လွတ်လွတ်လပ်လပ်မထား အစောင့်များဖြင့် ထားသည်မဟုတ်လား.....

"ရှုးတိုးတိုး ပြောကြ၊ မအံ့သြပါနဲ့ ညီလေးတို့ရာ မင်းတို့ ဘယ်နေရာဖြစ်ဖြစ် ဘယ်လောက်လုံခြုံရေးတွေ ချထားလည်းပဲ အလွယ်တကူဝင်လို့ ရအောင် လုပ်ပေးနေတဲ့သူ ရှိလို့ပဲ"

"ဗျာ..."

"ဟုတ်တယ်...မင်းတို့က ငါ့အဖေနဲ့အမေကို ကယ်ခဲ့တယ် ဆုငွေတွေနဲ့ လက်ဆောင်တွေလဲ ကောင်းကောင်း မွန်မွန် ပေးကြတယ်၊ မင်းတို့က ငါ့အမေကိုကယ်ခဲ့တဲ့ ကျေးဇူးရှင်တွေပဲလေ ငါလဲမင်းတို့ကို ပြန်ကယ်ရမှာပေါ့"

"ဒါဆို ကျွန်တော်တို့ကို လုပ်ကြံခိုင်းတဲ့သူက"

“အင်း…မင်းရဲ့…အဘိုးရဲ့ ညီ..နိုင်ငံခြားရေး ကိုယ်စားလှယ် အမတ်ကြီးပဲ”

“ဗျာ…”

ဖာ့ဇလီ မှာအံ့သြမှုများ လုံးဝ မထင်မှတ်ထားသော စကားကို ကြားလိုက်ရသဖြင့် ဝမ်းနည်းမှုများဖြင့် ရှိနေပါ တော့သည်။

ဖာ့ဇလီ မျက်စံပြူးကာ ကြည့်နေမိတော့သည်။ ဖာ့ဇလီမှာ ကြားရသည့် သတင်းကို အမှန်မဟုတ်ဟု ယုံကြည်မိသည်။ သူကို အဘိုး၏ ညီဖြစ်သူ အဘိုးလေးမှာ သူ့ကိုလုပ်ကြံသည့်အထိ ဘာတွေများ စီစဉ်နေလို့လဲ၊ အဘိုးလေးသည် အဘိုးထက်ပင် သူ့အပေါ် ချစ်ခင်ပါသေးသည်။ သူ ဘာလိုအပ်သည်ဖြစ်စေ ဘာအကြောင်းမှ မဟလိုက်နှင့် အားလုံး အေးဆေး လိုလေသေးမရှိအောင်ထားသည့် အဘိုးလေးက သူ့အား လုပ်ကြံသည်ဟု ပြောလာသူကို ဖာ့ဇလီ မယုံကြည်နိုင်ပါ။

“မယုံဘူး…ခင်များ မဟုတ်တာ လာမပြောနဲ့ မယုံဘူး”

“ဘာဖြစ်လို့ မယုံရတာလဲ အကြောင်းပြချက် ခိုင်ခိုင်လုံလုံ ပြနိုင်တယ် ဆိုရင်ကော”

“ဟာ….. ခင်များစကားကို ဘာကြောင့်ယုံကြည်ရမှာလဲ ယုံကြည်စရာ ဘာအကြောင်းမှ မရှိတာ”

ဖုဇလီ စိတ်များထိခိုက်ကာ လှုပ်လှုပ်ရှားရှား ဖြစ်သွားကာ မောပန်းသွားတော့သည်။ စိတ်မောလူမော ဖြစ်ကာ သောင်းကျန်းမည့် အနေထားသို့ရောက်ရှိသွားကာ ဖံပကို ရန်ဆောင် ပါတော့သည်။ ကျော်ကျော်မနေသာတော့. ကျော်ကျော်မှာ ဖုဇလီ ထံတိုးကပ်သွားကာ ပွေ့ဖက်လိုက်ပါသည်။ ဖုဇလီ ကျော်ကျော် ရင်ခွင်ထဲ ခေါင်းကို ဝှက်ကာ မျက်ရည်များ ကျနေပါတော့သည်။ ကျော်ကျော် ဖုဇလီ ကျောပြင်ကို ပွတ်သပ်ကာ ကလေးတစ်ယောက်လို ချော့မော့ရတော့သည်။

"ဖားဇလီး.....စိတ်ထိန်း လေကွာနော် မင်းမယုံတာကို ငါလက်ခံပါတယ် အကျိုးအကြောင်းဆိုတာ ရှိကြတာ ပဲလေနော်..."

"ငါမယုံဘူး ကြောင်ကြောင်ရာ ငါ့ကို ငါ့ဘိုးလေးက တစ်အားချစ်တာ ဒီလိုလုပ်ရက်ပါ့မလား မင်းစဉ်းစား ကြည့်စမ်းပါအုံး ဒီလူငါတို့ကို တမင်လုပ်ကြံချင်လို့ လာပြောတာပဲနေမယ်"

"ငါလုပ်ကြံချင်မှတော့ မင်းတို့ကိုလာပြီး သတ်တဲ့သူကို မင်းတို့အတွက် ကူညီပါ့မလာ ..ငါကိုယုံပါလို့တော့ မပြောပါဘူး ငါလဲကောင်းခဲ့တဲ့ သူမှ မဟုတ်တာ"

ကျော်ကျော် ကြားထဲက ဘာကိုယုံကြည်ရမည်ကိုတော့ မသိတော့မဝေခွဲတတ်ပါ။ ဖုဇလီ၏ အဘိုးလေး ဆိုသူကိုလဲ ဆေးရုံးကို တစ်ခါ မှ

လာမကြည့်တဲ့အတွက် မမြင်ဖူးပါဘူး။ ထိုကြောင့် ကျော်ကျော် အနေဖြင့် ဘာမှမဝေဖန်တတ်ပါ။ သို့ပေမယ့် ဖြစ်နေသည့် အကြောင်းရာက မျက်စိရှေ့တည့်တည့်တွင် အကြောင်းရာကို သေချာမေးမြန်းမှ ရမည် မဟုတ်လား။

"ပြီးတော့ မင်းတို့ကို လုပ်ကြံခိုင်းတာကလဲ ငါတို့နှစ်ယောက်တင် မဟုတ်ဘူး ကျန်သေးတယ် လူတွေရှိသေးတယ် ခုချိန်မှာ သူတို့တွေ သေသပ်စွာ လုပ်ရှားနေကြတာ"

ဇံပ စကားကို ကြားလိုက်တော့ ကျော်ကျော် လှည့်ကြည့်လိုက်ပါတော့ သည်။

"အကို ဆိုလိုတာက ကျန်တဲ့သူတွေလည်း အပြင်မှာရှိနိုင်တယ် အဲဒီလိုလား"

"ရှိနိုင်တာမဟုတ်ဘူး ရှိကိုရှိနေတာ ငါက သေလူလေ ငါ့လိုလူ တစ်ယောက်ကတော့ ဘာတန်ဖိုးရှိမှာလဲ သူတို့က လုပ်ဆို လုပ်ရတာပဲ၊ အရင်ကစိတ် ဆိုရင်တော့ ငါလုပ်မှာပဲ၊ ခုတော့ ငါမိဘတွေကို ကယ်ထားတဲ့ သူတွေကို ငါမလုပ်ရက်ဘူး၊ ငါ့မိဘ တွေအစား ငါအသက်ကို ငါပြန်ပေးတာတောင် ငါက မိဘကျေးဇူး ကို ကျေမှာမဟုတ်ဘူး"

“ဒါဆို အကိုအနေနဲ့ ကျွန်တော်တို့ ယုံကြည်နိုင်တဲ့ အတိုင်းအတာ တစ်ခုလောက် ပြောပါလား”

ဖာ့ဇလီမှာ ကျော်ကျော်ရင်ခွင်ထဲတွင် ဖက်ကာငိုနေရင်းက နားစွင့်နေပါသည်။ တစ်စုံတစ်ရာများ အကြောင်းတစ်ခုခု ရမည်လားဟု စောင့်နေမိသည်။

“ငါတို့ကို အစပထမက ကမရွှန်ဟိုင်းလန် ဘက်ကဆီးအုန်းတောမှာ အိမ်ကို ဆောက်ခိုင်းတယ် လွှန်ခဲ့တဲ့ တစ်လကပေါ့ ငါတို့လည်း ခိုင်ခိုင်ထည်ထည် ဆောက်လုပ်ခဲ့ပါတယ် လူသူအရောက်နည်းတဲ့နေရာမှာလုပ်ခိုင်းလို့ ငါတို့လည်း သူပြောတဲ့အတိုင်း လုပ်လိုက်တယ်၊ ဖာ့ဇလီရဲ့ ဓါတ်ပုံရယ် အခြားသုံးယောက်ရဲ့ ဓါတ်ပုံကိုပြပြီး ပြန်ပေး ဆွဲခိုင်းခဲ့တာ”

“ဖာ့ဇလီတို့ ကမရွှန်ဟိုင်းလန်ကိုလာဘို့ကို တစ်လလောက် ကတည်းက စောင့်နေခဲ့တယ် ဆိုပါတော့”

“ဟုတ်တယ်”

“ဒါဆို ဖာ့ဇလီးတို့ ကမရွှန်ဟိုင်းလန်းကို လာဖို့ တွန်းအားပေးသူက ရှိကိုရှိရမယ်၊ ဖာ့ဇလီးကရော ဘာဖြစ်လို့ ကမရွှန်ဟိုင်းလန်ကို လာခဲ့တာလဲ မင်းသဘောအတိုင်းလာ”

ဖူ့ဇလီ ကျော်ကျော် အမေးကို စဉ်းစားသလိုဖြင့် သူ့၏မှတ်ဉာဏ်များကို ပြန်ခေါ်နေပါသည်။

အဘိုးလေးသည် သူ့ကို ငယ်ငယ်ကတည်းက သဲသဲလှုပ် ချစ်ခဲ့သည်။ အဘိုးအရင်းထက်ပင် အချစ်ပိုကာ သူ့အပေါ်မှာ ကောင်းခဲ့သည်။ အဘိုးလေး အိမ်ကိုလာတိုင်း သူ့ကိုပွေ့ဖက် အလိုလိုက် အကြိုက် ဆောင်ကာထားသည်။ အဘိုးလေးသည် သူဘာလိုလို အကုန်ဖြည့်စည်း ပေးသည်။ တစ်ခါတလေ ခရီးက ပြန်လာတိုင်း သူမမှာလိုက်ပါဘဲနဲ့ကို သူလိုချင်မည့် အရာများ ရှာကြံဝယ်လာတတ်သည်။

ဖူ့ဇလီ စဉ်းစားလိုက်တော့ စားမေးပွဲပြီး၍ တစ်နေရာရာကို ခရီးထွက်ရန် ကြိုးစားနေသည်ကို အဘိုးကတားသည်။

"ဖြစ်မလားကွ မသွားနဲ့ စာပဲ ကြိုးစားစမ်းပါကွာ နောက်မှ သွားတော့၊ မြေးရဲ့ အဘိုးက နောက်မှ မြေးအတွက် ကောင်းတဲ့ နေရာ ပို့ပေးမယ်၊ ခုတော့ ဘယ်မှ မသွားတာ ကောင်းပါ တယ်မြေးရာ"

အဘိုးလေးကတော့ သူ့ကိုချစ်သဖြင့် သူ့အလိုလိုက် အကြိုက်ဆောင် တိုက်တွန်း ပြောခဲ့သည်။

“မြေးလေးရေ မင်းအဘိုးကတော့ တော်တော် ကပ်သီးကပ်ဖဲ့နဲ့ကွာ မြေးကို အဘိုးလေးက စီစဉ်ပေးမယ်”

ထိုနောက် အဘိုးလေးကပင် သူ့အား ကမရွန်ဟိုင်းလန် ကိုသွားရန် အကြံပေးခဲ့သည်။ ယခု ကမရွန်းဟိုင်းလန်ကို သွားဘို့ကို ခရီးစဉ် အစ အဆုံး အဘိုးလေးက အကုန်လုပ်ပေးခဲ့သည်။

“သားငယ်ရ အဘိုးတို့တုန်းက ဆိုရင်လေ ငယ်တုန်း လျှောက်သွား ပတ်နေတာကို အရမ်းပျော်တာပဲ မင်းလဲ သွားသင့်တယ် မရောက် ဖူးသေးတဲ့နေရာပေါ့ ဥပမာ ကမရွန်ဟိုင်းလန်တို့ နေရာမျိုးပေါ့ လွတ်လွတ်လပ်လပ် လူငယ်တွေ သွားတာကောင်းတယ် မင်းအဘိုး မသိအောင် အဘိုးလေး စီစဉ်ပေးမယ်”

“ဘိုးလေး တစ်ကယ်ပြောတာနော်”

“တစ်ကယ်ပေါ့ကွ”

“အဘိုးကိုတော့ ဘိုးလေး သွားမပြောနဲ့နော်”

“ဘိုးလေး တာဝန်ထား၊ ဟုတ်ပြီးလား”

ထိုအချိန်တုန်းက အဘိုးလေးစကားကို နားယောင်ကာ သူငယ်ချင်းများကို အိမ်မှခိုးထွက်ပြီး ခရီးထွက်ရန် သူကပင် ဦးဆောင်ခဲ့သည်မဟုတ်လား။ အဘိုးလေးအစီအစဉ် အတိုင်း သူတို့ ခရီးထွက်ခဲ့တာ ဖြစ်သည်။

"အင်းဟုတ်တယ် ကြောင်ကြောင် အဘိုးလေး စီစဉ်ပေးတာ"

ထိုစကားသည် ဖာ့ဇလီ ထံမှ လေးသံ တိုးတိုးလေသာ ထွက်လာခဲ့တော့သည်။ ကျော်ကျော် ဖာ့ဇလီအတွက် စိတ်တော့မကောင်းပါ အကြောင်းရာတစ်ခုက မသင်္ကာစရာ တွေ့ရှိခဲ့ပြီး မဟုတ်လား။

"ဒါနဲ့ အဘိုးလေးက ဖာ့ဇလီကို ဘာကြောင့် ပြန်ပေးဆွဲတာလဲ"

"အင်း အဘိုးလေးက ငါ့ကို ဘာကြောင့် လုပ်ရတာလဲ"

"အစ်ကို အနေနဲ့ ဒီထက်ကောင်းတဲ့သက်သေ ပြစရာရှိရင် ပိုကောင်းမယ် ဒီလောက်လေးနဲ့တော့ ဖားဇလီး အဘိုးလေးကို ဘာမှစွပ်ဆွဲလို့ ရမှာမဟုတ်ဘူး"

"ငါလဲ သဘောပေါက်ပါတယ် ဒါကြောင့်လဲ တစ်ချို့တွေကို ဖုန်းနဲ့ အသံသွင်းထားတယ် ငါနဲ့တော့ တိုက်ရိုက် ပြောတာ မဟုတ်ဘူးပေါ့ ငါ့အထက်ကလူတွေနဲ့ ပြောကြရင်"

"အဲဒါ အခုပါလား"

"အင်း"

"ခဏပြဗျာ ဒီအသံကိုတော့ ဖားဇလီး မှတ်မိကောင်းမှတ်မိလိမ့်မယ် မဟုတ်ဘူးလား"

ဇံပမှ သူ့၏ဖုန်းကို ထုတ်ပေးလိုက်တော့ ဖာ့ဇလီ လက်က တုန်ရီစွာ ကိုင်လိုက်ပါတော့သည်။ ဇံပပေးသော အသံဖိုင်ကို နားထောင်ရင် ဖာ့ဇလီ မျက်နာသွေးပင် မရှိတော့ချေ။ မျက်ရည်များ ပိုလို့တောင်ကျလာတော့သည်။

*"မနက်လင်းခါနီးလောက်မှ ဖြစ်တာဆိုတော့ တစ်နာရီလောက်တော့ ရှိလောက်ပြီး ဆရာ"*

*"အင်း ဒါဆို အဝေးမရောက်လောက်သေးဘူး ငါလူတွေ လွှတ်လိုက်မယ် မင်းလည်းလိုက်ထား ဘယ်လို လုပ်ရမယ်ဆိုတာ...ဟော ဆရာကြီးထွက်လာပြီး ဖုန်းကိုင်ထား"*

*"ဟုတ်ကဲ့"*

========= အသံခဏ ပိတ်သွားသည် လေတိုးသံများသာ ကြားနေရသည်။ ခဏနေတော့မှ ==========

*"ဟေ့ကောင်"*

*"ဗျာ"*

*"အေး...အားလုံးရှင်းလိုက်"*

*"ဗျာ"*

*"ဟာကွာ ဒီကောင်တော့ မင်းတွေ့အောင်ရှာ ပြီးရင် အစဖျောက်လိုက်တော့.. ဒါပဲ ငါတို့လည်း ခုထွက်လာခဲ့ပြီး ..မင်းတို့ သူတို့ကို မတွေ့ရင် မင်းတို့ဘာဖြစ်မယ် ဆိုတာ မင်းတို့သိတယ်နော် ဒါပဲ."*

*"ဗျာ ဟုတ်ကဲ့..ဟုတ်ကဲ့" ))))))))))))))))))))))))))))))))))))))))))))))))))))))))*

ဖာ့ဇလီ မယုံနိုင်ပါ မိမိကိုချစ်သည် ဟုတစ်သက်လုံး ခံယူထားသော အဘိုးလေးက မိမိအသက်ကို ရန်ရှာခဲ့လေပြီး။ မယုံလို့လည်း မရတော့ အသံများကို ဖာ့ဇလီ မှတ်မိပါသည်။ ဖာ့ဇလီတို့ကို ဖမ်းခေါ်တုန်းက ဓားပြများသည် မျက်နှာများကို အုပ်ကာ မမြင်အောင်ထားခဲ့ကြသည်။ ထိုသူများသည် အဘိုးလေးဘေးတွင် ရှိခဲ့သော လူယုံတော်များပင် မဟုတ်လား၊ ထိုကြောင့် ဖာ့ဇလီအား မတွေ့ရှိစေရန် ခေါင်းစွပ်မည်းများဖြင့် အမြဲတမ်းအုပ်ထားကြသည် ဖြစ်ပေမည်။

ဖာ့ဇလီ ရုတ်တရက်ထကာ လဲကျနေသော လူ၏မျက်နှာမှ မျက်နှာဖုံးကိုခွာကြည့်လိုက်ပါတော့သည်။

"ဟင်"

ဖော့ဇလီ အရုတ်ကြိုးပြတ်ကျကာ ဖင်ထိုင်ချလိုက် ပါတော့သည်။ ကျော်ကျော် ဖော့ဇလီကို စိုးရိမ်တကြီး ထွေးပွေ့လိုက်ပါတော့သည်။

"မင်း သူ့ကိုသိလို့လာ"

"အင်း..သိ..တယ်...အဘိုးလေး

ဘေးမှာနေတဲ့သူ..သက်တော်စောင့်ထဲက တစ်ယောက်ပဲ"

"ဒါဆို အမှန်တွေပေါ့"

"ငါ လက်မခံနိုင်သေးဘူးကွာ လက်ခံလို့လည်း မရဘူးဖြစ်နေတယ်"

"ဒါတွေထားပါ ခုလောလောဆယ် မင်းဘာလုပ်မှာလဲ"

"ငါမတွေးတတ်တော့ဘူး ငါ့ကို ဘာလို့ဒီလောက်တောင် လိုအပ်နေ လို့လဲ ဆိုတာငါနားမလည်နိုင်ဘူး"

ညိမ်ပြီး နားထောင်နေသော ဇံပမှ ဝင်ပြောပါသည်။

"ဖော့ဇလီ အဘိုးက ဖော့ဇလီအတွက် အမွေတွေကို တစ်ဦးတည်း သော မြေးအတွက်တဲ့ လွှဲပေးလိုက်တယ် ဆိုတဲ့အချိန်က စတာပဲ"

"ဘယ်တုန်းကလဲ ကျွန်တော်တောင်မသိရပါလား"

ဖာ့ဇလီ နားမလည်သလို ဖြစ်ကာ ဇံပကိုမေးလိုက်သည်။

“ငါလဲ သေချာတော့မသိဘူး သူရဲ့တပည့်တစ်ယောက်က ပြောလို့ သိရတာ မင်းအဘိုးက မင်းကိုအမွေတွေ လွှဲပေးလိုက်တော့ သူရဲ့ မြေးအတွက် မပါလာတဲ့အတွက် တော်တော် ဒေါသထွက်နေတယ် ပြောတာ၊ မင်းမရှိရင်တော့ သေတမ်းစာအရ သူ့မြေးက ရမယ် တဲ့လေ”

“မင်းမှာညီ ရှိသေးတယ်ပေါ့ ဟုတ်လား ဖားဇလီး”

“အင်းရှိတယ် တစ်ဝမ်းကွဲတော်တယ် ငါနဲ့သိပ်မတည့်ဘူး အဘိုးလေးကလဲ သူ့ရဲ့မြေးထက် ငါ့ကိုပိုချစ်တယ် လို့ထင်ခဲ့တာ”

“အင်းဒါက လှည့်ကွက်တစ်ခုပေါ့လေ ထားလိုက်တော့ မင်းလဲ ပင်းပန်နေပြီး ငါတို့မနက်ကျမှ ဘာလုပ်ရမယ် ဆိုတာ တိုင်ပင် ကြတာပေါ့”

“အချိန်မရှိဘူး မနက်ထိရောက်ဘို့ကို မင်းတို့ကို ဒီအတိုင်း ကြည့်နေမှာမဟုတ်ဘူး”

ဇံပ လောလော ဖြင့်ဝင်ပြောလိုက်တော့ သူတို့ခေါင်းတွေ ကြီးသွား ကြတော့သည်။

“ဒါဆိုကျွန်တော်တို့ကို ညတွင်းခြင်းလုပ်ကြံမယ်လို့ ပြောချင်တာလား”

“ဟုတ်တယ် ငါတို့အပြင်တစ်ခြားလူတွေလဲရှိသေးတယ်”

“ဒါဆို ငါတို့ ဘာလုပ်ကြမလဲ”

ဒီတစ်ခါတော့ ကြောက်နေသူက ကျော်ကျော်ပင်ဖြစ်တော့သည်။ ကျော်ကျော် မျက်နာကို ဖာ့ဇလီ တစ်ချက် ကြည့်လိုက်ပြီး နောက်တော့ သူ့၏ဖုန်းကို ကောက်ယူကာ ဖာ့ဇလီ၏ အဘိုးဖြစ်သူကို ဖုန်းခေါ်ရန် ဖာ့ဇလီကို ပေးလိုက်ပါတော့သည်။

“အဘိုး သားတို့ အခုတွေ့လို့ရမလား”

“ဟေ ..ဘာဖြစ်လို့လဲ သား”

“အဘိုးအနားမှာ ဘယ်သူမှ မရှိတာ သေချာလား”

“မင်းအဘိုးလေးတော့ ရှိတယ် သားရဲ့”

ဖာ့ဇလီ မျက်လုံးပြူးသွားပြီ ဇံပကို ကိုယ်အမူအယာဖြင့် အဆင်မပြေကြောင်း လုပ်ပြသည်။

“အဲ့ဒါဆို ထားလိုက်တော့ အဘိုး မနက်ကျမှ တွေ့မယ်”

အခြေအနေများက တော်တော်ရှုပ်ထွေးသွားတော့သည်။

“ဘယ်လို လုပ်ကြမလဲ အဘိုးအိမ်မှာ အဘိုးလေး ရောက်နေတာ ဖြစ်မယ်”

“ဒါဆိုမြန်မြန်လှုပ်ရှားမှ ဖြစ်မယ်လေ”

“အပြင်ကလူတွေက ဘယ်သူတွေရှိသလဲ အစ်ကို ဝင်လာတော့”

“ဒီကောင်ပဲရှိတာ၊ ကျန်လူတွေ ထမင်းစား သွားတယ်ထင်တယ်၊ တစ်ယောက်မှ မရှိဘူး”

“ဒါဆို ဒီကောင် အဲ့လို ဘယ်သူမှ မရှိအောင် စီစဉ်လိုက်တာ ဖြစ်မယ်၊ ဒီကောင်ကို ငါ့နေရာမှာ အိပ်သလို ထားလိုက်”

“အေး”

သုံးယောက်သား ထိုမေ့မျောနေသော လူကို ကုတင်ပေါ်တင်လိုက်ပြီး ခြေနှင့် လက်တို့ကို ဆောင်ဖြင့် ချည်ထားလိုက်သည်။ ပါးစပ်ကိုလဲ တပတ်နှင့် ချည်ထားလိုက်သည်။ ထို့နောက် ကျော်ကျော်ကို ဝှီလ်ချဲလ်ပေါ် တင်ကာ ဖာ့ဇလီက တွန်းပြီး ဇံပက ရှေ့မှ အခြေအနေကြည့်ကာ ထွက်ခဲ့လိုက်တော့သည်။

“အစ်ကိုရဲ့ အဖေနဲ့ အမေပါ ခေါ်မှရမယ်”

"အေး"

"ဖာ့ဇလီး မင်းရဲ့ အဘိုးဆီက လူယုံတစ်ယောက်တစ်လေတောင် အသိမရှိဘူးလား၊ ငါတို့ကြီးပဲဆိုတာထက် အဲ့ထဲက တစ်ယောက် ပါရင် ပိုပြီး အဆင်ပြေမယ်"

"ရှိတယ် ခဏဆက်သွယ်လိုက်မယ်"

"ဟာ"

ခုမှ သူတို့ဘောင်ဘီထဲစမ်းလိုက်တော့ ဖာ့ဇလီရော ကျော်ကျော်ရော ဖုန်းတွေ မရှိကြဘူး ဖြစ်နေသည်။

"ဖုန်းမပါလာတော့ဘူး"

"ဟုတ်လား"

"ပြန်ယူလိုက်ရမလား"

"မယူတော့နဲ့ ထားလိုက်တော့"

ဇံပ တားနေတော့ သူတို့လည်း ပြန်မယူတော့ဘဲ ရှေ့ဆက်လျှောက်ရှား လိုက်သည်။ သူတို့ ၃-ယောက် ဇံပရဲ့မိဘတွေရှိတဲ့ အခန်းကို ခပ်မြန်မြန် ဝင်လိုက်ကြပြီးနောက် ဇံပမိဘများကို ဆေးရုံက ခုဆင်းရမှာမို့ မြန်မြန်

လောပြီး ဆင်းလိုက်ကြသည်။ အဘွားနှင့် အဘိုးမှာ သူ့သားပါလာသဖြင့် အခြေအနေကို အနည်းငယ် သဘောပေါက်သွားသည်။

“သားတို့နှစ်ယောက်ရော အဆင်ပြေရဲ့လား”

အဘိုးက ကျော်ကျော်နှင့် ဖာ့ဇလီကို မေးသည့် အတွက် သူတို့နှစ်ယောက်လည်း အဘိုးအား အဆင်ပြေကြောင်း ခေါင်းညိတ်ပြုံးပြလိုက်ကြသည်။

ဖာ့ဇလီ နှင့်ကျော်ကျော် အပါဝင် ဇံပ၏ မိဘများကိုလည်း ဆေးရုံးမှ ညတွင်းခြင်း လျှို့ဝှက်စွာ ပြောင်းရွှေ့လိုက်ပါတော့သည်။ သူတို့ကလဲ ဆေးရုံမှ မျက်နှာအုပ်ထားသည့် အရာများကို ဖုံးနိုင်သမျှ ရုပ်ဖျက်၍ ထွက်ခဲ့ကြသည်။

အဘိုးလေးက လူလည်ဖြစ်သည်။ ဖာ့ဇလီ သူ့အဘိုးဆီ ဖုန်းဆက်ကတည်းက သူ့လူကို အဆက်အသွယ် လုပ်ကြည့်တာ မရမှန်းလဲသိရော အခြားလူတွေကို ဆေးရုံကို အမြန်သွားရန် ပြောလိုက်တော့သည်။

ဆေးရုံရဲ့ CCTV မှတ်တမ်းကို ပြန်ကြည့်တော့ အဘိုးလေး၏ အကြံအစည်ဖြင့် ကြိုတင် ဖြုတ်ထားသဖြင့် မှတ်တမ်းများ မရရှိတော့ချေ။ ဆေးရုံက အဆင်းတွင် အဘိုးလေးလူများက ကရောသကော ဝင်လာသည်ကို အပေါက်ဝတွင် မြင်လိုက်သဖြင့် ခပ်တည်တည်နှင့် ဖြတ်သန်းခဲ့ရသည်။

နောက်တစ်နေ့ သတင်းစာရှင်းလင်းပွဲတွင် ဖာ့ဇလီ ပျောက်သွားသည်ကို ဇံပပြန်ပေးဆွဲသည်ဟု အဘိုးလေးမှ သတင်းဖြန့်လိုက်ပါတော့သည်။ ဇံပ၏ ရုပ်ပုံများသည် TV ဖန်သားပြင်ပေါ်တွင် ပါလာပါတော့သည်။ ထို့အတူ ပျောက်ဆုံးသွားသည့် ကျော်ကျော်ပုံ၊ ဖာ့ဇလီပုံ နှင့် ဇံပ၏ မိဘများပုံများ ပါလာတော့သည်။

"ကျွန်တော်တို့ ဘယ်လို လုပ်ရင် အဆင်ပြေမလဲ၊ ကျွန်တော်တို့ အချိန်ဆွဲနေလို့တော့ မရဘူး၊ အမြန်လှုပ်ရှာမှ ရမယ် ထင်တယ်"

ကျော်ကျော်မှာ ကိုဇံပကိုလဲ စိုးရိမ်းသလို ဖာ့ဇလီကိုလဲ စိုးရိမ်မိပါတော့သည်။ သူတို့ ဇံပ၏ အချစ်ဆုံး သူငယ်ချင်း အိမ်တွင် ပုန်းခိုနေကြရသည်။ အစစအရာရာ သတိထားနေရသည်။ ပုန်းခိုနေတာ ကြာနေလျှင်လည်း တစ်နည်း မဟုတ် တစ်နည်းကတော့ မိနိုင်သည် မဟုတ်လား။

"ကိုယ်တစ်ခု စဉ်းစားမိတာက ဖာ့ဇလီရဲ့ အဘိုးကိုသာ ကိုယ်တို့ တိုက်ရိုက် ဆက်သွယ်နိုင်ရင် လုံးဝကို အဆင်ပြေတယ်"

"မှန်တယ် ဒါပေမယ့် အဘိုးနားမှာက အဘိုးလေးက လုံးဝကို အလွတ် မပေးနိုင်ဘူးဗျ"

"ဟုတ်တယ် ငါတို့ရဲ့ လွတ်လမ်းက မင်းရဲ့ အဘိုးပဲရှိတော့တာ"

"ကျွန်တော်လဲ အတွေးခက်နေတယ်ဗျာ"

"ညီလေးရဲ့ အဘိုးဆီကို သွားရင်လည်းပဲ မင်းတို့အိမ်နားမှာ အစောင့်တွေ အရင်ကထက် ပိုတင်းကြပ်ထားနိုင်တယ်၊ ငါတို့ရဲ့ နည်းလမ်းကလဲ မင်းအဘိုးပဲရှိတယ်၊ တခြားအကြောင်းအရာတွေ ဘာတွေ ဖြစ်နိုင်သလဲဆိုတာ စဉ်းစားရမယ်"

ကျော်ကျော်မှာ ဇံပနှင့် ဖာ့ဇလီပြောနေသည့် စကားထဲတွင် ဝင်မပါဘဲ စဉ်းစားလို့နေသည်။

"ကြောင်ကြောင် ဘယ်လို ထင်သလဲ၊ အကြံလေး ဘာလေး ပေးပါအုံး"

"ငါလဲ စဉ်းစားနေတာပဲ"

"အင်း"

"မင်းရဲ့ အဘိုး ရှိနိုင်တဲ့ နေရာတွေ စဉ်းစားလို့ရနိုင်မလား၊ ဥပမာ အစောင့်တွေ သိမ့်မထားတဲ့ တစ်နေရာ ဖြစ်ဖြစ်ပေါ့"

ဇံပစကားကို ဖာ့ဇလီမှာ ခေါင်းကုတ် ခေါင်းခါဖြင့် စဉ်းစားနေရပါတော့သည်။

"နည်းနည်းတော့ စွန့်စားရမယ်"

"ဘယ်လိုပုံမျိုးလဲ"

"အိမ်ကို တစ်လ တစ်ကြိမ် Service ဆင်းတဲ့ အဖွဲ့တော့ရှိတယ်၊ သူတို့က တစ်ခါလာရင် အိမ်ကို ငါးယောက် လောက်တော့ လာတယ်"

"ဘာ Service တုန်း"

"ရေကူးကန်ရှင်းတယ်၊ aircon ပြင်တယ်၊ ခြံထဲ အမှိုက်ရှင်းတယ်"

"Service နာမည်က"

"တယ်နီကွန် တဲ့နာမည်က၊ တစ်ခါလာတိုင်း အရင်တစ်ခါလာတဲ့ လူကတော့ မတူကြဘူး၊ နည်းနည်းတော့ အပြောင်းအလဲ လုပ်တယ်"

"ဟုတ်ပြီး ကိုယ်စုံစမ်းလိုက်မယ်၊ အဲ့ကနေပြီး သွားလို့ရအောင်၊ ကျော်ကျော်က ဒဏ်ရာတွေ သိမ့်မပျောက်သေးတော့ မလိုက်နဲ့ပေါ့"

"မရပါဘူး ကျွန်တော်လဲလိုက်မယ် စိတ်မချဘူး"

"ဘယ်သူ့ကိုလဲ"

"ဖုဇလီးကို"

"အမ်"

“အဟိ”

အမ်ဆိုတာက ဇံပက အံ့သြော်ပြီး ကြောင်အသွားတဲ့ အာမေဒိတ် အသံဖြစ်ပြီး၊ ကျော်ကျော် စကားကြောင့် ဖာ့ဇလီက ကြည်နူးသွားပြီး အသံထွက်သည့် အထိ ရယ်မိသွားသည်။

“အေးပါကွာ အဲ့ဒါဆို ငါစုံစမ်းအုံးမယ် အပြင်ထွက်ပြီး”

“ဟုတ်ကဲ့”

ကိုဇံပ ရုပ်နည်းနည်းဖျက်ကာ ထွက်သွားသည်။ ကိုဇံပ အတွက်လည်း သူတို့ စိုးရိမ်းမိသည်။ ကိုဇံပသာ သူတို့ကို မကယ်ခဲ့လျှင် သူနှင့် ဖာ့ဇလီ ဘယ်ဆီ ရောက်နေမည်ကို မသိတော့ချေ။

“ကိုဇံပကို ကျေးဇူးတင်မိတယ်၊ ငါတို့ကို ကယ်ထုတ်ထားလို့လေ”

“တစ်ဦးက မေတ္တာ၊ တစ်ဦးက စေတနာပေါ့ကွာ”

“အင်း ငါ့အနားတိုးပါအုံး”

“ဘာဖြစ်လို့လဲ”

“လက်က တော်တော်ကိုက်နေလို့”

ကျော်ကျော် အသံက ချွဲပြစ်နေသလို ထွက်သွားတော့သည်။

“ဟုတ်လား”

ဖာ့ဇလီ စိုးရိမ်းတကြီး လက်ကို သေချာလာကိုင်တော့မှ ကျော်ကျော်က ဖာ့ဇလီလက်ကို ပြန်ကိုင်ပြီး ဆွဲယူပစ်လိုက်သည်။ ဖာ့ဇလီ ခန္ဓာကိုယ်ကြီးမှာ ကျော်ကျော် ပေါင်ပေါ်သို့ ရောက်ရှိသွားတော့သည်။

“အ... ဘာလုပ်တာလဲ”

“ချစ်လို့ လွမ်းလို့ အနားကို ခေါ်တာလေ”

“ပိုကို ပိုတယ် ကြောင်ကြောင်ရာ၊ မင်းက လက်ရော ခြေထောက်ကရော အရှင်းပျောက်သေတာ မဟုတ်ဘဲနဲ့ကို”

“ဒီလိုလေး ကိုင်တာနဲ့ ဒဏ်ရာတွေက ပိုဆိုးလာမှာမို့လို့လား ဖာ့ဇလီးရာ”

“ဟုတ်ပါပြီး အခွဲလေး ကြောင်ကြောင်ရယ်”

“အဟီး”

ထို့နောက်မှာတော့ ဖာ့ဇလီက ကျော်ကျော်ကို ချစ်ရည်များ ရွှဲနေတဲ့ မျက်ဝန်းလေးနဲ့ သေချာကြည့်ပြီးနောက် နူတ်ခမ်းကို အနမ်းလေး တစ်ပွင့်ခြွေလိုက်သည်။

“ရွှတ်”

ကျော်ကျော်မှာတော့ ကြည်နူးသွားပြီး မှုရထားသည့် မျက်နှာနှင့် ပြုံးနေမိသည်။ ကျော်ကျော်လည်း အားကျမခံ ဖာ့ဇလီကို ပြန်နမ်းလိုက်သည်။

“ရှွတ်”

“အဘွားတို့ မြင်သွားအုံးမယ်”

“လူကြီးတွေကဖြင့် နားနေတာ ညကတည်းက ပင်းပန်နေတော့ အခန်းထဲမှာ အိပ်နေလောက်ပြီးကို”

“လူလည်လေး”

“အချစ်လေးပါ ဟ”

“အချစ်လူလည်လေးပေါ့”

“အင်း အချစ်လူလည်လေး”

<<<<<<<<<<<<<<<<>>>>>>>>>>>>>>>>

# အခန်း (၆)

ည အတော်မိုးချုပ်တော့မှ ဇံပပြန်လာသည်။ သူပြန်လာတော့ ကျော်ကျော်နှင့် ဖာ့ဇလီမှာ သတင်းကောင်းရမည်ကို မျှော်လင့်တကြီး အနားကပ်သွားကြသည်။

“ဘယ်လိုလဲ ကိုဇံပ အဆင်ပြေခဲ့လား”

ကျော်ကျော် အလောတကြီး မေးလိုက်သည်။

“အင်း စုံးစမ်းလို့တော့ ရပြီးကုမ္ပဏီကို၊ ပြီးတော့ ခြံဝင်ကဒ်တွေ ခိုးလာတယ်”

“ဘယ်လိုမျိုးလဲ ဗျ”

ဖာ့ဇလီလဲ သိချင်ဇောနှင့် ဝင်မေးသည်။

“မင်းတို့ ခြံကိုဝင်ဘို့ ကဒ်ထုတ်ပေးထားတယ် အဲ့ကုမ္ပဏီကို၊ အဲ့ ကဒ်တွေ ခိုးလာခဲ့တယ်၊ ပြီးတော့ အဲ့ ကုမ္ပဏီက ကားတစ်စီးကို သူတို့ကား ဝပ်ရှော့ပို့ထားတာ သွားယူခဲ့လိုက်တယ်၊ အဲ့ကုမ္ပဏီရဲ့ ယူနီဖောင်တွေပါ ခိုးခဲ့တယ်”

“ပိုင်လှကြီးလား”

"အေး မနက်ဖြန် ငါတို့သွားကြမယ်၊ ငါ့သူငယ်ချင်း ဒီအိမ်က ကောင်ကို ကားနဲ့ လိုက်မောင်းပို့ခိုင်းမယ် ပြီးရင် သူ့ကို ပြန်ခိုင်း လိုက်မယ်"

"အဲ့ဒါဆို ကဒ်က လေးကဒ်ပါမှပေါ့"

"အင်း လေးကဒ်ယူလာတယ် ယူနီဖောင်ရောပဲ"

"အား....ကိုဇံပက တော်လိုက်တာဗျာ"

ကျော်ကျော် ဝမ်းသာအားရ ကိုဇံပကို ဖက်လိုက်တော့ ဖာ့ဇလီက အလို မကျတဲ့ မျက်ဝန်းနဲ့ စိုက်ကြည့်နေသည်။

"အေးပါကွာ ငါ့မှာ ချွေးတွေနဲ့ကွ"

"ရပါတယ်ဗျ"

"တော်တော့လေ"

ဖာ့ဇလီ နောက်ဆုံးတော့ ကျော်ကျော်ကို ဆွဲလိုက်ပြီး အလိုမကျသံကြီးနဲ့ ဝင်ပြောတော့ ကိုဇံပနှင့် သူ ပြုံးမိလိုက် ကြသည်။

"ကဲ မနက်ဖြန် လုပ်ငန်းစမှာမို့ စောစော အိပ်ကြ ကိုယ်လဲ ရေချိုးပြီး အိပ်တော့မယ်၊ မနက်ဖြန် သေချာပြင်ဆင်ရမှာ အမှား ကင်းအောင် လုပ်ရမယ်နော်"

“ဟုတ်ကဲ့”

“ဟုတ်”

သူတို့နှစ်ယောက်ကို နူတ်ဆက်ပြီး ကိုဇံပ ရေချိုး အိပ်ယာဝင်ရန် ပြင်ဆင်လိုက်တော့သည်။ သူတို့နှစ်ယောက်လဲ အတူတူ အိပ်ယာ ဝင်လိုက်တော့သည်။

< < < < < < < < < < < < > > > > > > > > > > > >

နောက်တစ်နေ့ မနက်မှာတော့ ကိုဇံပ စီစဉ်ထားသည့် အတိုင်း၊ ကဒ်ပြားများ ကိုယ်စီချိတ်ကာ ယူနီဖောင်များ ဝတ်လိုက်ကြသည်။ မျက်မှန် အမည်းများတပ်ပြီးနောက် မျက်နှာကို အနည်းငယ်ဆီ ရုပ်ဖျက်လိုက်ကြသည်။ ကိုဇံပရဲ့သူငယ်ချင်းက ကားမောင်းပြီး လိုက်ပို့သည်။

အပြင်မထွက်ခင် ကိုဇံပ မိဘတွေဖြစ်သည့် အဘိုးနှင့် အဘွားက တစ်တွတ်တွတ်မှာရှာသည်။

“သတိဝိရိယ ရှိကြနော်၊ အစစအရာရာ အားလုံး စိတ်ချမယ်နော်သား”

“ဟုတ်ကဲ့ပါ”

“လူလေးတို့လည်း ဂရုစိုက်ကြနော်”

“ဟုတ်ကဲ့”

“ဟုတ် အဘိုးနဲ့ အဘွား”

သူတို့ အဘိုးနှင့် အဘွားကို နှုတ်ဆက်ပြီး ခပ်မြန်မြန် ထွက်ခဲ့လိုက်တော့သည်။ ဝန်ကြီး အိမ်သို့ရောက်တော့ တံခါးဂိတ်ဝမှာ တာဝန်ခံအဖြင့် ကိုဇံပက ထွက်ပြီး ကဒ်ပြကာ၊ ကဒ်ထဲမှ နာမည်များကို ချရေးပြီး လက်မှတ်ထိုး ကဒ်စစ်ပြီးနောက် အထဲသို့ ဝင်ခဲ့ကြသည်။ အိမ်ထဲသို့ မဝင်ခင် အိမ်ပေါက်ဝမှာ aircon နှင့်ပက်သက်သော စက်ပစ္စည်းများကို ထုတ်ကာ ကားကို ပြန်လွှတ်လိုက်သည်။

ကားပြန်ထွက်သွားတော့ ဖာ့ဇလီ ဦးဆောင်ကာ မှင်သေသေဖြင့် ဖာ့ဇလီ အဘိုးနှင့် အနီးဆုံး အခန်းဘက်ကို ထွက်ခဲ့လိုက်သည်။ သူတို့ ကြိုတင်မှန်းဆထားသလို အဘိုးလေးလူများလည်း အခန်းထဲတွင် ဟိုတစ်ယောက် ဒီတစ်ယောက် တွေ့နေရသည်။

ထမင်းစားခန်းမှာတော့ အဘိုးလေးနှင့် အဘိုးတို့ စကားလက်ဆုံ ကြနေသည်။ သူတို့ပြောတဲ့ စကားတွေမှာ ကျော်ကျော်တို့ အကြောင်းတွေပဲဖြစ်နေပြီး မြန်မြန်ကယ်ဆယ်ဖို့ မှာတမ်းခြွေနေသူက ဖာ့ဇလီ အဘိုးထက် အဘိုးလေးက ပိုပြီးငေါက်ငမ်းနေသည်။

အိမ်ထဲမှာတော့ အဘိုးလေး လူများကတော့ နည်းသည်။ အဘိုးလူကသာ ပုံမှန်အတိုင်း လူများသည်။ သူတို့ သုံးယောက် အပေါ်ထပ်ရှိ ဖာ့ဇလီ အဘိုးအခန်းဘက် အနီးဆုံးမှာ နေရာယူလိုက်ကြပြီး aircon ဖြုတ်တပ် သန့်စင်ဖို့ကတော့ ကိုဇံပက ဦးဆောင် လုပ်နေသည်။ ခဏနေတော့ ဖာ့ဇလီအဘိုး အပေါ်တက်လာပြီး အင်္ကျီလည်ရန်နှင့် ကိုယ်လက် သန့်စင်ရန် အတွက် ဖြစ်သည်။

ဖာ့ဇလီလည်း အချိန်ကောင်းဖြစ်ကြောင်း မျက်ရိပ်မျက်ကဲ အချက်ပြ လိုက်ပြီး အဘိုးဝင်သည်နှင့် သုံးယောက်သား အဘိုးအနားကပ်က အခန်းထဲ ဝင်လိုက်ကြသည်။

“ဟာ ဘာလုပ်ကြတာလဲ”

အဘိုးရဲ့ အလန့်တကြား အော်လိုက်သံကြောင့် တပည့်များနှင့် အဘိုးလေး ကြားသွားပြီး အဘိုးရှိသည့် ဘက်ကို ပြေးလာကြသည်။

“အစ်ကိုကြီး ဘာဖြစ်တာလဲ”

“ဆရာကြီး တစ်ခုခုဖြစ်ပြီးကွ”

အောက်မှ ရုတ်ရုတ်သဲသဲတက်လာကြတော့ ကိုဇံပက တံခါးကို သေချာ ပိတ်လိုက်တော့သည်။ အထဲမှနေ၍ လော့ဒ်ချလိုက်သည်။

"အဘိုး အဘိုးသားပါ အဘိုးမြေး ဖာ့ဇလီပါ"

ဖာ့ဇလီမှာ အဘိုးမလန့်သွားစေရန် ဖက်ထားရင် အသံပြုလိုက်ရသည်။

"ဟင် မြေးလေး အို ဘုရား တော်သေတာပေါ့ မြေးလေးရယ် မြေးလေးရယ် ပြန်လာတာ ရိုးရိုးပြန်လာရင် ရတာကို ဘာဖြစ်လို့ ခုလိုတွေ လုပ်နေရတာလဲ"

"သားပြန်လာဘို့ အခြေအနေက မပေးသေဘူး အပြင်မှာ သား အသက်ကို လိုချင်တဲ့ သူတွေ ရှိတယ် အဘိုး"

"ဘယ်လို ဘာတွေ ဖြစ်ကုန်တာလဲ မြေးရယ် ဘာတွေ ဖြစ်ကုန်တာလဲ၊ မြေးကို ဘယ်သူက သတ်မှာလဲ ပြောစမ်းပါ အဘိုးကို"

အပြင်မှလဲ တံခါးကို တစ်ဒုန်းဒုန်းနှင့် ထုနေကြသည်။ တံခါးကို ဖျက်ဝင်ဘို့ အဘိုးလေး အသံကိုလည်း အတိုင်းအတာ အထိ ကြားနေရသည်။

"ရော့ သားမှာ အသံဖိုင်ပါတယ် အဘိုးနားထောင်ကြည့် ဘယ်သူ့ အသံလဲ ဆိုတာ"

ဖာ့ဇလီမှာ အသင့်ယူလာသော ဖုန်းထဲမှ အသံဖိုင်ကို ဖွင့်ပြလိုက်သည်။

*((((((((((((((((((((((((( "မနက်လင်းခါနီးလောက်မှ ဖြစ်တာဆိုတော့ နာရီလောက်တော့ ရှိလောက်ပြီး ဆရာ"*

*"အင်းဒါဆို အဝေးမရောက်လောက်သေးဘူး ငါလူတွေ လွှတ်လိုက်မယ် မင်းလည်းလိုက်ထား ဘယ်လို လုပ်ရမယ်ဆိုတာ...ဟော ဆရာကြီးထွက်လာပြီး ဖုန်းကိုင်ထား"*

*"ဟုတ်ကဲ့"*

*"ဟေ့ကောင်"*

*"ဗျာ"*

*"အေး...အားလုံးရှင်းလိုက်"*

*"ဗျာ"*

*"ဟာကွာ ဒီကောင်တော့ မင်းတွေ့အောင်ရှား ပြီးရင်အစဖျောက်လိုက်တော့..ဒါပဲ ငါတို့လည်း ခုထွက်လာခဲ့ပြီး ..မင်းတို့ သူတို့ကို မတွေ့ရင် မင်းတို့ဘာဖြစ်မယ် ဆိုတာ မင်းတို့သိတယ်နော် ဒါပဲ."*

*"ဗျာ ဟုတ်ကဲ့..ဟုတ်ကဲ့" ))))))))))))))))))))))))))))))))))))))))))))))))))))*

အသံဖိုင်ကြားပြီး အဘိုးမှာ မျက်နာပျက်ယွင်းကာ အံ့သြသည့် ပုံစံဖြင့် သူကြားထားသည့် အသံကို ယုံတောင် မယုံဘဲ ဖြစ်နေသည်။

"ဒါ...ဒါ...ဒီ အသံ...ဒီ အသံ"

“ဟုတ်တယ် အဘိုး သားလဲ ကြားကြားချင်း ကိုယ့်နားကိုယ်တောင် မယုံနိုင်အောင် အံ့သြမိတယ် အဘိုးရယ်၊ အခု အပြင်မှာ အဘိုးလေး လူတွေရော ရှိတယ်၊ အဲ့ဒါတွေက သားကို သတ်မယ့်သူတွေပဲ အဘိုး”

“ဒါဆို ဟို…ဇံပဆိုတဲ့ကောင်ကရော”

“သူက သားကို ကယ်ခဲ့တာ အဘိုး၊ သူကယ်လို့ သားခုချိန်ထိ အသက်ရှင်နေတာပါ အဘိုးရယ်”

သူတို့မှာ အဘိုးကို ပြောပြ ရှင်းပြနေသလို၊ အပြင်မှာလဲ ကမ္ဘာပျက် မတတ်ဖြစ်နေသည်။

“ဟေ့ကောင်တွေ မင်းတို့ လွတ်မယ်ထင်နေသလား မင်းတို့ကို အားလုံး ဝိုင်းထားပြီးပြီ မင်းတို့ ဒီအထဲကနေ အသက်ရှင် ပြန်ထွက်ရမယ် ထင်နေသလား၊ ငါ့ကိုကြီး တစ်ခုခုဖြစ်လို့ကတော့ မင်းတို့အားလုံး အရှင်မထားဘူးကွ”

အဘိုးလေး အသံကလည်း ဟိန်းထွက်လို့လာသည်။ အဘိုလေး၏ စကားများက တစ်ကယ်လုပ်မည့် အနေအထား ဖြစ်နေသည်။

“ကဲ မြေးတို့ သုံးယောက် ရေချိုးခန်းထဲ ဝင်နေ အဲ့ထဲကနေ လှော့ဒ်ချထား ဒီအသံဖိုင် ဖုန်းက တစ်ခုတည်းလား”

“ဟုတ်တယ် အဘိုး”

“အဲ့ဒါဆို viber ကနေ အဘိုးဆီ ပို့ထားလိုက် မြန်မြန်ပို့ပေး၊ ကဲ အချိန်မရှိဘူး မင်းတို့ အထဲ ဝင်ကြတော့”

“ဟုတ်ကဲ့”

သူတို့ သုံးယောက် ရေချိုးခန်းထဲ ဝင်လိုက်ကာ အဘိုး မှာထားသလို လော့ဒ်ချလိုက်သည်။ သူတို့ အထဲ ဝင်သွားမှ အဘိုးက တံခါးကို အေးဆေး ဖွင့်ပေးလိုက်သည်။

“ငါဘာမှ မဖြစ်ဘူး မင်းတို့ ခဏညိမ်ညိမ်နေကြ”

အသံပြုပြီးမှ ဖွင့်ပေးလိုက်သည်။ တံခါးဖွင့်ဖွင့်ချင်း အဘိုးလေးက အဘိုးကို စိုးရိမ်တကြီး ပြာယာခတ်နေသည့် အတိုင်း အနားကပ်ကာ မေးလိုက်သည်။

“အစ်ကိုကြီး ဘာဖြစ်သွားသေလဲ ကျွန်တော်ဖြစ် လန့်သွားတာပဲ ဘာဖြစ်တာလဲ အစ်ကိုကြီး၊ ဟိုကောင်တွေရော ဘယ်မှာလဲ၊ ဟော့ကောင်တွေရှာကြစမ်း တွေ့တာနဲ့ ဆော်ထည့်ပြစ် ငါ့အစ်ကိုကြီး ကိုယ်မှ ရာရာစစ လာလုပ်ရတယ်လို့”

“အားလုံးတိတ်ကြစမ်း၊ တော်တော့ ငါဘာမှ မဖြစ်ဘူး”

အဘိုး၏ ဩဇာအသံကြီးက ဟိန်းထွက်သွားသည်။ အဘိုးအသံကြောင့် အားလုံးတိတ်ဆိတ်သွားကြတော့သည်။ အဘိုးလည်း လူတွေအားလုံးကို တစ်ချက်လှေ့လာလိုက်ပြီးနောက်မှာတော့၊

“ဂတိုးပါး၊ ခါးနရန် နဲ့ ပါနိုးရာ နေခဲ့ ကျန်လူတွေ ကိုယ့်အလုပ် ကိုယ်ပြန်လုပ်ကြ”

“ဟုတ်”

တစ်ညီတညာတည်း အသံ သံပြိုင်ထွက်သွားကြပြီး ပြန်လှည့်သွားကြတော့သည်။ အဘိုးပြောသည့် ဂတိုးပါးနှင့် ခါနာရန်က အဘိုး လူယုံတွေဖြစ်ပြီး ပါရာနိုးကတော့ အဘိုးရဲ့ညီ အဘိုးလေးပင် ဖြစ်သည်။

အဘိုးလေး လူယုံနှစ်ယောက်က ရစ်သီ ရစ်သီး လုပ်နေသဖြင့် အဘိုးက အလိုမကျသံ ထွက်သွားတော့သည်။

“မင်းတို့က ဘာလုပ်နေတာလဲ မသွားကြသေဘူးလား”

အဘိုးပြောတော့မှာ အဘိုးကို အရိုအသေ ပေးပြီးနောက် ထွက်သွားကြတော့သည်။

“အခန်းတံခါးပိတ်လိုက်”

အဘိုးစကားကြောင့် တပည့်ထဲမှ တစ်ယောက်က တံခါးပိတ်လိုက်သည်။

"ပါနိုးရာ.. မင်း ဘာတွေ လုပ်ထားသလဲ"

"ဗျာ အစ်ကိုကြီး၊ အစ်ကိုကြီး ဘာကို ပြောနေတာလဲ၊ ကျွန်တော် ဘာမှ မလုပ်ထားဘူးလေ၊ အစ်ကိုကြီးမြေးက ကျွန်တော့် မြေးပါပဲ၊ ဖာ့ဇလီကို ကျွန်တော် ဘယ်လောက် ချစ်သလဲ ဆိုတာ အစ်ကိုကြီး သိနေတာပဲကို ဖာ့ဇလီကို လုပ်ကြံနေတာက ဟိုကောင် ဇံပဆိုတဲ့ လူဆိုးကောင်လေ၊ ဒီကောင်လုပ်ကြံနေတာ အစ်ကိုကြီးလည်း သိနေတာကို ဘာဖြစ်လို့ ကျွန်တော်ကို လာမေးနေတာလဲ အစ်ကိုကြီး"

အဘိုးလေးမှာ ပြာပြာသလဲ ရှင်းနေတော့သည်။

"မင်းကို ငါက မေးတာက မင်းဘာတွေ လုပ်ထားသလဲလို့ မေးလိုက်တာ၊ မင်းဖြေလိုက်တာက ဖာ့ဇလီ အကြောင်းတွေကြီးပဲ ဖြေနေပါလားကွ"

"ဗျာ .. အစ်ကိုကြီးက ဒီအချိန်မှာ ဖာ့ဇလီ အကြောင်းပဲ မေးနေတာ ထင်တာလေ၊ ကျွန်တော်တို့ အပူက ဒီမြေးလေး ပဲရှိတာကိုးဗျ"

တလုံး..

Viber မှ မက်ဆေ့ဝင်လာသံကြောင့် အဘိုးက ဖုန်းကို ကောက်ကိုင်လိုက်သည်။ အဘိုးက မျက်ရိပ် မျက်ကဲဖြင့် တပည့်နှစ်ယောက်ကို

ဂရုစိုက် ကြည့်ထားရန် မှာထားလိုက်သည်။ ထို့နောက် အဘိုးက ဖာ့ဇလီပို့လိုက်သော အသံဖိုင်ကို ဖွင့်ပြလိုက်သည်။

*(((((((((((((((((((((((( "မနက်လင်းခါနီးလောက်မှ ဖြစ်တာဆိုတော့ နာရီလောက်တော့ ရှိလောက်ပြီး ဆရာ"*

*"အင်း ဒါဆို အဝေးမရောက်လောက်သေးဘူး ငါလူတွေ လွှတ်လိုက်မယ် မင်းလည်းလိုက်ထား ဘယ်လို လုပ်ရမယ် ဆိုတာ...ပေါ ဆရာကြီးထွက်လာပြီး ဖုန်းကိုင်ထား"*

*"ဟုတ်ကဲ့"*

*"ပေါ့ကောင်"*

*"ဗျာ"*

*"အေး...အားလုံးရှင်းလိုက်"*

*"ဗျာ"*

*"ဟာကွာ ဒီကောင်တော့ မင်းတွေ့အောင်ရှား ပြီးရင်အစဖျောက် လိုက်တော့..ဒါပဲ ငါတို့လည်း ခုထွက်လာခဲ့ပြီး ..မင်းတို့ သူတို့ကို မတွေ့ရင် မင်းတို့ဘာဖြစ်မယ် ဆိုတာ မင်းတို့သိတယ်နော် ဒါပဲ."*

*"ဗျာ ဟုတ်ကဲ့..ဟုတ်ကဲ့" ))))))))))))))))))))))))))))))))))))))))))))))))))*

အဘိုးလေးမှာ အသံကို နားထောင်ရင်းက မျက်လုံးများ ပြူးနေသည်။

"ဒါ တမင် အကွက်ချ စီစဉ်တာ အဲ့ဒါ ကျွန်တော့ အသံမဟုတ်ဘူး၊ အဲ့ဒါ ကျွန်တော်ဖြစ်မလား မယုံပါနဲ့ အစ်ကိုကြီးရာ ကျွန်တော် လုပ်မလားဗျ"

"ယုံတာ မယုံတာ အသာထားအုံး မင်းဘာဖြစ်နေတာလဲ ပါနိုးရာ၊ မင်းဘာကြောင့် ဒါမျိုး တွေးနေလိုက်တာလဲ၊ အဲ့ဒါ အဓိက ငါသိ ချင်တယ်"

"ကျွန်တော် မဟုတ်ဘူးလို့ အစ်ကိုကြီးကို ပြောနေတယ်လေ၊ ဘာလဲ အစ်ကိုကြီးက ဘယ်က လူကမှန်းမသိ ပို့လိုက်တဲ့ အသံ ဖိုင်ကို ယုံနေပြီးတော့၊ ညီအရင်းခေါက်ခေါက် ကျွန်တော့ စကား ကြတော့ မယုံတာလားဗျ"

"အေး အသံဖိုင်ပို့လိုက်တာ မင်းရဲ့သိပ်ချစ်လှပါတယ်ဆိုတဲ့ မြေး ဖာ့ဇလီ ပို့လိုက်တာ"

"သူ့မှာ ဖုန်းမရှိဘူး၊ ဘယ်နည်းနဲ့မှ သူမပို့နိုင်ဘူး"

"သူ့မှာ ဖုန်းမရှိတာ မင်းဘယ်လိုသိသလဲ"

"ဗျာ"

ရုတ်တရက် သတိလက်လွတ် ထွက်သွားသော အားနည်းချက်ကို အမိအရ ဆုပ်ကိုင်လိုက်သူက အဘိုးပါ။

“မင်းပြောတော့ ငါ့မြေးက ဖုန်းလဲ မကျန်ခဲ့ဘူးဆို၊ ပျောက်သွားတုန်းက အကုန်ပါသွားတယ်ဆိုကွ”

အဘိုးလေးမှာ မိမိ အမှားဖြစ်သွားသည်ကို သတိထားမိလိုက်သည်။

“ဒါက…ဒါ ကျွန်တော့ အထင်ပြောတာလေ၊ မှန်ချင်လည်းမှန်မယ်၊ မှားချင်လည်း မှားနိုင်တာပဲ”

“ပြီးတော့ ဖဲ့ဇလီ ဒီလောက် အခက်အခဲတွေ ဖြစ်နေတာကို မင်းရဲ့ စကားသံထဲမှာ အကုန် သိနေကြောင်း ပြောနေသလိုပဲ”

“မဟုတ်ဘူး ကျွန်တော် ဘာမှ မလုပ်ထားဘူး”

“မင်းလုပ်တယ် မလုပ်ဘူးဆိုတာ ပြီးရင်တော့ ရှင်းကြတာပေါ့၊ ကဲ မြေးတို့ရေ ထွက်ခဲ့လိုက်တော့”

အဘိုးခေါ်သံကြောင့် သူတို့သုံးယောက် အခန်းထဲမှ ထွက်ခဲ့လိုက်သည်။ ထိုအချိန် အဘိုးလေးမှာ ဘောင်ဘီထဲ လက်နှိုက်ပြီး အရေးပေါ် သူတပည့်တွေဆီကို ခေါ်လိုက်သည်။ (ဖုန်းထဲတွင် အရေးပေါ်နံပတ်နှင့် ၁,၂,၃ စသည့် နာမည်များ မှတ်လို့ရအောင် စီစဉ်ထားခြင်းဖြစ်သည်။)

“ဟာ မြေးလေး ဖော့ဇလီ”

အဘိုးလေးက ဟန်ဆောင်ကောင်းသည်။ ဖော့ဇလီကို မြင်တော့ ဝမ်းသာသွားသည့် ဟန်ပန်နှင့် ဖော့ဇလီ အနားသို့ လာရန်ပြင်လိုက်သည်။

“မင်း ညိမ်ညိမ်လေး နေနော် ပါနိုးရာ၊ လုံးဝ မလှုပ်နဲ့ ငါ့မြေးအနား ကပ်ဖို့လဲ မစဉ်းစားနဲ့”

အဘိုးရဲ့ အမိန့်ပေးသံက ဟိန်းထွက်သွားတော့ အဘိုးလေး ညိမ်လိုက်ပါသည်။

“ဟာ အစ်ကိုကြီးရာ ကျွန်တော်ရှင်းပြနေတာကို မယုံတာလား”

“ဒီအချိန်မှာ ငါဘယ်သူ့ ဘယ်သူကိုမှ မယုံနိုင်ဘူး”

“ဟိုကောင် ဇံပ၊ အဲ့ကောင် သူ့အပြစ်လွတ်အောင် ကျွန်တော်ကို ဂျောက်တွန်းနေတာ အသိသာကြီးကို အစ်ကိုကြီးကလဲ”

အဘိုးလေးမှာ ဇံပကို လက်ညိုးထိုးကာ အသွင်သွင် ပြောနေတော့သည်။ အဘိုးလူယုံတွေကလဲ ဇံပကို ဖမ်းရမလို အနေအထား ပြင်လိုက်တော့သည်။

“မင်းတို့ သူ့ကို မဖမ်းနဲ့၊ ပြဿနာတွေ ဖြေရှင်းဖို့လိုသေတယ်”

“ဟုတ်”

အဘိုးတားမြစ်ချက်ကြောင့် လူယုံနှစ်ယောက်လည်း ညိမ်သွားပေမယ့် သတိ အနေအထားသို့ ပြင်လိုက်သည်။

"ကဲ တံခါးဖွင့်လိုက်တော့ သက်ဆိုင်ရာလည်း ငါခေါ်ထားပြီးပြီ မကြာခင် ရောက်လာတော့မယ်၊ ပါနိုးရာ မင်း အေးဆေးလိုက်သွား ပြီးမှ ဒီကိစ္စ အမှန်အတိုင်း ဖြစ်စေရမယ်၊ မင်းမဟုတ်ဘူးဆိုလည်း မင်း အကြောင်းပြချက် ကောင်းကောင်း ပေးလို့ရပါတယ်"

"ဟာ .. အစ်ကိုကြီး ဒါတော့ လွန်သွားပြီး၊ အဓိက ဟိုကောင် ဇံပကိုပဲ ခေါ်ရမှာကို ကျွန်တော်ကို အစ်ကိုကြီး အရမ်း ရက်စက်ရာ မကျနေဘူးလား ပြောပါအုံး"

"ငါပြောပြီးပြီလေ မင်း လိုက်သွားလိုက်၊ ပြီးရင် ဖြေရှင်းပါလို့ ဆိုတာကို"

"တောက်"

အဘိုးလေးမှာ အံကို တင်းတင်းကြိတ်ကာ မခံချိမခံသာဖြင့် ရှေ့ဆုံးမှ တံခါးဖွင့်ကာ ထွက်လိုက်သည်။ အဘိုးလေး အချက်ပြ ခေါ်ထားသည့် အတွက် သူတပည့် နှစ်ယောက်က အပြင်တံခါးကွယ်တွင် စောင့်နေသည်။

အဘိုးလေး ထွက်ပြီးတော့ အဘိုးတပည့်နှစ်ယောက်က အဘိုးလေး နောက်က လိုက်သည်။ ထို့နောက် ကျော်ကျော် နှင့် ဇံပ ထွက်သည်။

ဖော့ဇလီက တော့ သူ့အဘိုးလက်ကို တွဲကာ အပြင်ထွက်ခဲ့လိုက်သည်။ တပည့်နှစ်ယောက် အပြင်ရောက်သည်နှင့် အဘိုးလေး လူက တပည့်နှစ်ယောက်ကို လုံးလိုက်သည်။

ဝုန်း ...

ဘောင်း..

ထို့အတူ အဘိုးလေးက တပည့်တွေဆီက ခါးကြားက သေနတ်ကို လုယူလိုက်ပြီး သေနတ်ပြောင်ဝက ဖော့ဇလီဆီသို့ လှူပ်ရှားလိုက်သည်။ ထိုအရာကို မြင်မြင်ချင်း ကျော်ကျော်မှာ မနေသာတော့ဘဲ ဖော့ဇလီကို အုပ်ကာ ကာလိုက်သည်။

ဒိုင်း...

အ

သေနတ်မှ ထွက်လာသော ကျည်က ကျော်ကျော် လက်မောင်းကို မှန်သွားသည်။ လွဲသွားသဖြင့် နောက်တစ်ချက် ထပ်ပြစ်ရန် အဘိုးလေး ရွယ်လိုက်ချိန်တွင် ဇံပက ကာကွယ်လိုက်သည်။

ဒိုင်း

ဖောင်း

ထိုနောက်တစ်ချက်က ဇံပအား မှန်သွားသည်။ ဇံပခုံးဘက်မှ သွေးများ ဖြာကနဲ ထွက်သွားတော့သည်။ အဘိုးလေး လက်ထဲမှ သေနတ်ကတော့ ဇံပ ကန်ချက်ကြောင့် လွတ်ထွက် သွားတော့သည်။

"ဟာ"

အဘိုးမှာလဲ အကာအကွယ် ကောင်းကောင်း ယူလိုက်သည်။ သူ့မြေးကိုလဲ စိုးရိမ်တကြီး ကြည့်လိုက်သေးသည်။

"မြေးလေး..."

သေနတ်သံများကြောင့် အိမ်ရှိအစောင့်များ ပြေးတက်လာကြပြီး အဘိုးလေးနှင့် အတူသူ့တပည့်နှစ်ယောက်အား ဝိုင်းချုပ်ထားလိုက်ကြတော့သည်။

ထိုသို့ ချုပ်ထားသည့် အထဲတွင် ဇံပလည်း အချုပ်ခံထားရသည်။

"ကို ဇံပ ကိုလွှတ်လိုက် သူက ကျွန်တော်တို့ မြေးအဘိုးကို ကာကွယ်တာ"

ဖာ့ဇလီ၏ အသံကြောင့် ကိုဇံပကို လွှတ်ပေးလိုက်ကြသည်။ အားလုံးကို ချုပ်ထားတော့မှ အဘိုးက သူညီအား နာကြီးစွာ ကြည့်လိုက်ပြီးနောက် အဘိုးလေးကို မေးလိုက်သည်။

“မင်း…မင်းဘာသဘောနဲ့ မင်းချစ်လှစွာကြီးရက်ဆိုတဲ့ မင်းမြေး ဖာ့ဇလီကို သတ်ချင်ရတာလဲကွ”

“ဟား..ဟား… ဘာကျုပ်မြေးလဲ ခင်များကြီး ဘေးနားမှာ ကျုပ်ရှိနေတာတောင်မှ ခင်များကြီးက ကျုပ်အတွက် ဘာကြည့်ပေးလို့လဲ၊ အခုလဲ ကျုပ်ရော ကျုပ်မြေးကရော ခင်များရဲ့ အမွေကို မရဘဲ ဒီကောင်က အကုန်ရတာလေ၊ ဒီကောင် သေမှ ကျုပ်မြေးက ရမှာပေါ့”

“ဟေ့ကောင် ဇကောလောက် ဓောက်မနက်တဲ့ကောင် မင်း ဒီအမွေတွေကို မက်မောရအောင် မင်းက မရှိဆင်းရဲ နေလို့လားကွ”

“အဲ့ဒါတွေ ကျုပ်မသိဘူး ကျုပ် ခံစားရတာပဲ ကျုပ်သိတယ်”

“တော်ပြီး ဒီကောင် မျက်နာကို ငါမကြည့်ချင်တော့ဘူး ငါ့ရှေ့ကနေ ခေါ်သွားကြ၊ ဥပဒေအတိုင်း ဘက်မလိုက်ဘဲ ရှင်းလိုက်ကြတော့”

“ဟားဟား ဟားဟား”

အဘိုးရဲ့ ဒေါသတကြီး အသံကြောင့် သူရဲ့ တပည့်တွေက မြန်မြန် လှုပ်ရှားလိုက်ကြတော့သည်။ အဘိုးလေးကတော့ နာကြီးချက် ရယ်သံများနှင့် ပါသွားတော့သည်။ အဘိုးလေးအတွက် ဖာ့ဇလီလဲ စိတ်မကောင်း ဖြစ်မိသည်။

“ကြောင်ကြောင် ရရဲ့လား”

“အ…ရတယ် ငါက လက်မောင်းပဲ ထိတာ ကိုဇံပကို ကြည့်လိုက်ကြအုံး”

ကိုဇံပကတော့ သွေးတွေ အရမ်းထွက်နေသည်။

“မြေးလေးအသက်ကို ကာကွယ်ကြတဲ့ မင်းတို့ကို ကျေးဇူးအရမ်းတင်ပါတယ်ကွယ်၊ မင်းတို့သာ အဘိုးရဲ မြေးအနားမှာ မရှိနေကြရင် အဘိုးမြေးရဲ့ မျက်နှာလေးကို မြင်ရမှာ မဟုတ်ဘူးဆိုတာ အဘိုး ကောင်းကောင်းကြီး သဘောပေါက်ပါတယ်၊ မင်းတို့ကို အတိုင်းမသိ ကျေးဇူးတင်မိပါတယ်ကွယ်”

ဆေးရုံကားကို အမြန်ခေါ်ကြပြီး သူတို့နှစ်ယောက်ကို ဆေးရုံသို့ ပို့ပေးလိုက်ကြတော့သည်။

“မြေးလေး”

“အဘိုး”

အခုမှ မြေးနှင့် အဘိုး အလွမ်းသည်ကာ ဖက်ထာမိကြတော့သည်။

“ကံကောင်းလို့ မြေးလေးရယ် သေကံမပျောက်ဘဲ ပြန်တွေ့ရလို့ ဘုရားသခင်ကိုတောင် ကျေးဇူးတင်မိတယ်”

“အဘိုး မေတ္တာတွကြောင့် မြေးလေး အသက်ရှင်နေရတာပါဗျာ”

“အို မြေးလေးရယ်”

< < < < < < < < < < < < < < < < < > > > > > > > > > > > > > > > > >

# အခန်း(၇)

ဆေးရုံးအသစ်တွင် ကျော်ကျော် နှင့် ဇံပ အားထားခဲ့ပြီး ဖာ့ဇလီသည် သူ၏ အဘိုးဖြင့် လိုက်ပါသွားတော့သည်။ ကျော်ကျော်မှာတော့ ဆေးရုံတွင် တစ်ယောက်တည်း အားငယ်စွာကျန်ခဲ့ပါတော့သည်။

ဖာ့ဇလီမှာ ကျော်ကျော်ဆီသို့ မရောက်နိုင်ဘဲ အလုပ်တွေ ရှုပ်နေပါတော့သည်။ အဘိုးလေးကိစ္စမှာ တော်တော်ကို ဟိုးလေးတကြော်ကြော် ဖြစ်သွားသည့် အတွက် ဖာ့ဇလီမှာ ပို၍ မအားရှာဘဲ ကျော်ကျော်ဆီကို မရောက်နိုင်ဖြစ်ချေ။

ကျော်ကျော်မှာတော့ ယခင်က အနာဟောင်းတွေရော အခုအသစ်ရော ဖြစ်နေသည့်အတွက် ဆေးရုံကနေ မဆင်းနိုင်သေးချေ။ ရက်တပတ် ကြာတော့ ကိုဇံပက အရင်ဆင်းသွားသည်။ ကျော်ကျော်မှာ လက်မှ အပူထိထားသည့် အနာဟောင်းအား အမာရွတ်ပျောက်စေရန်အတွက် ဆေးရုံတွင် ကျန်ခဲ့သည်။ ကိုဇံပကတော့ ဆေးရုံက ဆင်းလျှင် ဆင်းပြီးနောက် အဘိုးလေးကိစ္စ၏ အဓိက သက်သေအဖြင့် ဖာ့ဇလီတို့နှင့် အတူ အလုပ်တွေ ရှုပ်နေပါတော့သည်။

ကျော်ကျော်လည်း ဆေးရုံတွင် လိုလေသေးမရှိ နေရတယ်ဆိုပေမယ့် တစ်ယောက်တည်း မဟုတ်တောင် အားငယ်နေမိသည်။ ဖာ့ဇလီ၏ အဘိုး

ဩဇာနှင့်အညီ ဆေးရုံတွင် ကျော်ကျော်ကို စောင့်ရှောက်ပေးမည့် သူများကို ငှားကာ ထားပေးသည်။

“ကျော်ကျော်”

“ဟင်…နှင်းနွဲ့”

ညှော်သည်လာသည်ဟု သူနာပြုဆရာမလေး ပြောတုန်းက ဖုဇလီ ဟု ထင်ထားသော ကျော်ကျော် မထင်မှတ်ကာ နှင်းနွဲ့ကိုမြင်လိုက်ရသဖြင့် အံ့ဩမိပါတော့သည်။

နှင်းနွဲ့သည် ကျော်ကျော်ကို မြင်သည်နှင့် ကျော်ကျော်၏ ကုတင် ဘေးသို့ပြေးလာကာ ငိုပါလေတော့သည်။ ကျော်ကျော်မှာ ချော့မော့နေ ရပါတော့သည်။

“မငိုပါနဲ့ နှင်းနွဲ့ရာ ငါဘာမှမဖြစ်ပါဘူး”

“မတော်လို့ပေါ့ဟယ် ငါ့ကြောင့်ဖြစ်ရတာလို့ ငါမှာ နောင်တတွေရနေတာ”

“နင်နဲ့မဆိုင်ပါဘူး ငါ့ကံပေါ့….ဒါနဲ့ နင်တစ်ယောက်တည်းလာ”

“မဟုတ်ဘူး ငါ့အမျိုးသားလည်း ပါတယ်”

“အော်..”

နှင်းနွဲ့ကို ခုချိန်မှာ ကျော်ကျော် ရင်မခုန်တော့ပါ၊ အရင်လို နှမျောစိတ်လည်း မရှိတော့၊ ငယ်သူငယ်ချင်းသံယောဇဉ် တစ်ခုသာ ရှိပါတော့သည်။ ကျော်ကျော်လည်း ထိုစိတ်ကို အံ့သြမိပါသည်။

နှင်းနွဲ့၏နောက်မှ လိုက်လာသော လူငယ်တစ်ယောက်က ကျော်ကျော်အား ပြုံးပြပါသည်၊၊

"သူ့နာမည်က ခိုင်ဝင်းတဲ့ တောင်တွင်းကြီးကလေ"

"အောင်ဟုတ်ကဲ့ တွေ့ရတာ ဝမ်းသာပါတယ် ကျွန်တော်နာမည် ကျော်ကျော်ပါ"

"ဟုတ်ကဲ့ကျွန်တော်လည်း တွေ့ရတာဝမ်းသာပါတယ် နှင်းနွဲ့က အစ်ကို့ အကြောင်းတွေပြောပြပါတယ်"

"အောင်ဟုတ်ကဲ့ အဟဲ"

ကျော်ကျော် နည်းနည်းတော့ ရှက်မိပါသည်။ ရည်းစားဟောင်း၏ အမျိုးသားကို တွေ့ရလို့ဖြစ်မည်။

"ကဲ ကျွန်တော် အပြင်ကနေ စောင့်နေမယ် သူငယ်ချင်းနှစ်ယောက် လွတ်လွတ်လပ်လပ် စကားပြောကြပါနော်"

"ရပါတယ်ဗျ ဒီကနေစောင့်လည်းဖြစ်ပါတယ်"

“မဟုတ်တာဘဲ လွတ်လွတ်လပ်လပ်ပြောကြပါဗျာ၊ ကျွန်တော်လဲ ဆေးရုံကင်တင်းမှာ ထိုင်ပြီး ကော်ဖီသောက် လိုက်အုံးမယ်”

“ဟုတ်ကဲ့ပါ ဗျာ”

ကိုခိုင်ဝင်း ထွက်သွားတော့ နှင်းနွဲ့က ကျော်ကျော်လက်ကို ကိုင်ကာ နှစ်သိမ့်ပေးသည်။

“သူကဟယ် ငါဒီကိုရောက်တော့ ဒုက္ခတွေ အများကြီး ရင်ဆိုင်ရတယ်၊ အချိန်ပိုလဲ မရှိ ၊ ဝင်ငွေကလဲ နည်းတော့ မိဘတွေရဲ့ အကြွေးကလဲ ပူနဲ့ဆိုတော့ သူက ငါ့ကို သနားပြီး ကူညီပေးရင်းက ရင်းနှီးသွားကြတယ်”

“အင်း”

“နှင့်ကို ဒီဒုက္ခတွေ မပြောပြဘူးဆိုတာက နင်လဲ ငါ့လို အတူတူ ဖြစ်နေမယ်လို့ ငါခန့်မှန်းမိပြီး နင့်ကို ပြောမထွက်ခဲ့ဘူး”

“နှင်းနွဲ့ရယ်”

“ငါ့အပူတွေ မပေးချင်ဘူးလေ၊ ဒါနဲ့ သူရဲ့ အကူအညီကို လက်ခံရင်းက ငါတို့ ပိုရင်းနှီးသွားတယ် ပြောရမှာပဲ၊ သူကလဲ ငါ့ကို နှစ်သက်နေတော့ ကပ်တာလဲ ပါတာပေါ့၊ အဲ့နောက်ပိုင်း အကူအညီ

တွေ ယူရင်းကနေ ငါတို့တွေ မှောက်မှားမိကုန်တယ် အဲဒါကြောင့် နင်ကို အားနာလို့”

“တော်ပါတော့ဟာ…နင်ကလဲ ဒါတွေထားတော့ ငါလည်းဘာမှ မဖြစ်တော့ဘူး နင်တို့လာတာ အဝေးကြီးကနေပြီး ဒီကိုလာတာ ငါတောင်အားနာမိတယ်”

“ငါတို့လည်း အခု ကမရွှန်ဟိုင်းလန် မှာ မနေတော့ဘူး ကေအန်လ် မှာပြောင်းနေကြပြီးလေ”

“အော်…”

“နင့်ကို စုံစမ်းတော့ အစပထမက နင့်ကုမ္ပဏီက လူတွေက နင်ပျောက်သွားတယ် ငါ့ဆီလာတဲ့အချိန်ကတည်းကဆိုပဲ၊ အဆက် အသွယ်လဲ မရကြဘူးတဲ့၊ နောက်မှ ရဲတွေက သတင်းပေးလို့ နင် ဓားပြတွေ လက်ထဲ ရောက်သွားတာ သိရတာတဲ့လေ၊ TV မှာ နင့်သတင်းတွေ ပါလာတော့ စိုးရိမ်မိသေတယ်၊ နောက်တော့ နင် ဒီရောက်နေတယ် ပြောလို့ လိုက်လာတာ”

“ဟုတ်လား”

“နင်တို့ကုမ္ပဏီက နင့်သူငယ်ချင်းတွေ ပြောပြတာလေ နင်က သူရဲကောင်းကြီးတဲ့”

“ဟားဟား အဲ့လောက်လည်း မဟုတ်ပါ ဘူး”

“နင်ကို သူတို့က ကောင်းကောင်းလုပ်ပေးမယ် ပြောတယ်ဟ”

“အင်းငါလဲကြားတယ်”

“နင်ဘယ်တော့ဆေးရုံးက ဆင်းမလဲ”

“နောက်တစ်ပတ်လို့တော့ ထင်တာပဲ၊ လက်က အမာရွတ်တွေ ပျောက်အောင် လုပ်ပေးမယ် ပြောတယ်”

“အေးပေါ့ လုပ်ပေးရမှာပေါ့၊ ဒီနိုင်ငံရဲ့ ဝန်ကြီးမြေးကို ကယ်ထားတာပဲကို နော်”

“အင်း”

“နင့်ကို အခုလို ကောင်းကောင်းမွန်မွန် ပြန်တွေ့ရတာ အရမ်းဝမ်းသာတာပဲဟာ”

“ငါလည်းပဲ နင်ခုလို ကျန်းကျန်းမာမာ ပျော်ပျော်ရွှင်ရွှင် မြင်ရတော့ ဝမ်းသာတယ် သိလား”

“ငါတို့ သူငယ်ချင်းတွေ အဖြစ်နဲ့ အမြဲနေသွားမယ်နော်”

"ဒါပေါ့ နှင်းနွဲ့ရ၊ ဒါနဲ့ အိမ်နဲ့ အဆက်အသွယ် လုပ်သေးလား၊ အခုဆို ငါ့မှာ တစ်လကျော်တော့မယ် ထင်တယ် အဆက်အသွယ် မလုပ်မိတာ"

"လုပ်ဖြစ်ပါတယ်၊ နင့်ကိုလဲ မစိုးရိမ်းဘို့တော့ မှာထားရတာပေါ့"

"အင်းပါ ကျေးဇူးတင်ပါတယ်ဟာ"

"ကျေးဇူးတင်ရမယ့် သူစိမ်းတွေမှ မဟုတ်တာ၊ ဒီထက်တောင် လုပ်ပေးရအုံးမှာ"

"အေးပါ သူငယ်ချင်းရာ"

"အဟီး ခေါ်ကောင်းတယ်နော် သူငယ်ချင်းဆိုတာလေးက"

"အင်း"

"နောက်တစ်ခါလာရင် နင်စားချင်တာ ချက်ခဲ့မယ်၊ ဘာတွေ စားချင်သလဲ"

"အင်း မြန်မာ့လက်ရာတွေ မစားရတာကြာပြီးဆိုတော့ စားချင်တယ်၊ မြန်မာဟင်းနဲ့ ထမင်းကို"

"အင်း နောက်တစ်ခါ ဖွယ်ဖွယ်ရာရာ ချက်လာမယ်၊ ဒါနဲ့ နင့်ဖုန်းနံပတ်ရရင် ငါ့ကိုဆက်အုံးနော်၊ ဖုန်းနံပတ် ရေးခဲ့ပေးမယ်၊ ခုတော့ ဖုန်းမရှိသေဘူးမှတ်လား"

"အင်း မရှိသေဘူး၊ ဒီမှာရေးခဲ့လိုက်"

အနားရှိ စာရွက်လွတ် တစ်ရွက်မှာ ရေးခိုင်းလိုက်သည်။

ထိုရက်က နှင်းနွဲ့ ညနေမှ ကျော်ကျော်ကို နှုတ်ဆက်ပြီးပြန်သွားကြသည်။ ဖှဲ့ဇလီမှာတော့ ကျော်ကျော်ထံ မလာတော့၊ ကျော်ကျော်သည် ဖှဲ့ဇလီကိုလွမ်းလှပါသည်။

ကျော်ကျော် မှာတော့ ဖှဲ့ဇလီ နှင့်ပတ်သက်သော သတင်းတစ်ချို့ကို ဇံပထံမှ ရရှိခဲ့ပါသည်။ ဇံပသည် ကျော်ကျော် ဆေးရုံးဆင်းတော့ လာခေါ်ကာ ကျော်ကျော်အား အထူးစပါယ်ရှယ်ဝယ်ပေးထားသော (ဂုဏ်ပြုသောအားဖြစ်) တိုက်ခန်းလေးသို့ လိုက်ပို့ပေးပါသည်။ ဖှဲ့ဇလီသည် ဇံပနှင့်အတူ ဖမ်းမိသော အဘိုးလေး၏ သက်တော်စောင့်နှစ်ယောက်နှင့်အတူ သက်သေများဖြင့် သူ့၏ အဘိုးလေးကို တရားဆွဲဆိုလိုက်ပါတော့သည်။

အဘိုးလေးနှင့်အတူ ကြံရာပါများကို ဖမ်းဆီလိုက်ခြင်း ခံလိုက် ရပါတော့သည်။ ဇံပအပါအဝင် ဖြစ်ပါသည်။ ဇံပကိုတော့ အကျယ်ချုပ်ဖြင့်

ဖော့ဇလီ၏ သက်တော်စောင့် တာဝန်ကို ပေးလိုက်ခြင်းခံရပါသည်။ ထိုအရာသည်ကလဲ ဖော့ဇလီ၏ တောင်းဆိုချက်ဟု ဖိုးပမှ ပြောသွားခဲ့ပါသည်။ ဖော့ဇလီနှင့်ပတ်သက်၍ ကျော်ကျော် မေးမြန်းသော အခါ ဖိုးပထံမှ ဘာမှ မရေရာပဲ သေချာမပြောခဲ့ပါ။

ခုတော့ ကျော်ကျော် တစ်ယောက်တည်း ဖြစ်လို့နေပါတော့သည်။ တိုက်ခန်းသည် ကျော်ကျော်တစ်ယောက်တည်း အတွက်တော့ တော်တော်ကို ကျယ်ဝန်းပါသည်။ သူ့အား တိုက်ခန်းအပြင် ဖုန်းနှင့် အခြားပစ္စည်းများလည်း စုံစုံလင်လင် ဝယ်ပေးထားသည်။

သူ၏ရင်ခုန်သံ မှားယွင်းစွာချစ်ခဲ့သော ချစ်သူကို သူသည်မှားယွင်းစွာပဲ မက်မောနေမိပါတော့သည်။

အချစ်ရေ... လို့ တရားဝင် ခေါ်ခွင့်မရခဲ့သောသူ၏ ရင်ထဲတွင် ချစ်သူကို လွမ်းလှပါသည်။ ချစ်သူသည် သူ့အား အဆက်သွယ်မလုပ်ခဲ့ပါ။ ချစ်သူဟု တစ်ဘက်သက် ခေါ်ဆိုခဲ့သော သူဘက်မှ ချစ်သူကို တစ်ရက်မပျက် လွမ်းလှပါသည်။

ခုတော့ချစ်သူသည် သူနှင့်အလှမ်းဝေးကာ နေရာတွင်ရပ်တည်နေမည်။ ချစ်သူသည် သူ့၏ရင်ခွင်တံခါးကို ခေါက်ကာ တိတ်တဆိတ် ပျောက်ကွယ်နေသည်။

သူ၏တံခါးကတော့ ချစ်သူခေါက်ခဲ့သော တုန်ခါမှုဖြင့် ရင်ထဲလွမ်းလျှ နေသည်။

ချစ်သူတော့သိမည်မဟုတ်။

<<<<<<<<<<<<<<<>>>>>>>>>>>>>>>>

## အခန်း (၈)

နှင်းနွဲ့ သည် ကျော်ကျော်ထံသို့ လာကြည့်သည့် ပထမဆုံးရက်က ဖှ့ဇလီ ကျော်ကျော်ထံလာခဲ့သည်ကို ကျော်ကျော် မသိခဲ့ပါ။ ဖှ့ဇလီသည် ကျော်ကျော်ကို အခန်းပေါက်တွင် နှင်းနွဲ့နှင့်ထိုင်ကာ ရယ်မော ပြောဆိုနေသည်ကို တွေ့ရှိခဲ့ပြီး လှည့်ပြန်သွားခဲ့သည်။

ကျော်ကျော်ကို လွမ်းလွန်းလို့ ဖှ့ဇလီ အရက်တွေ သောက်သည်။ ဆိုင်မှာ ထိုင်သောက်ရတာ အားမရလို့ ပန်းခြံထဲတွင် ထိုင်သောက်မိသည်။ သူသောက်တာ များသွားတော့ အနားတွင် ပါလာသည့် ကိုဇံပက သူ့အား ထိမ်းပေးရသည်။

“အလားကားပဲ သိလား”

“ညီငယ် မင်းမူးနေပြီး”

“မူးနေပြီးတဲ့ ဟုတ်လား ကိုဇံပ”

“အင်း အိမ်ပြန်ဖို့သင့်ပြီး ညီငယ်”

“သူ့ကို ကျွန်တော် အရမ်းလွမ်းတာပဲ ကိုဇံပရယ်”

“........”

“လွမ်းလွန်းလို့ ငိုရတဲ့ ရက်တွေလည်းများခဲ့ပြီး”

“အင်း”

ဇံပမှာ အလိုက်အထိုက် စကားပြန်ပြောနေရသည်။

“ခုဆို ဆေးရုံကဆင်းလို့ တစ်လတောင် ပြည့်တော့မယ်၊ ကျွန်တော့ကို ဖုန်းလေး တစ်ချက်တောင် သူက မခေါ်ဘူးဗျာ၊ ကျွန်တော်မှာတော့ လွမ်းလွန်းလို့ ရူးပါ ရူးတော့မယ်”

ဇံပသည် ဖုဇလီနှင့် ကျော်ကျော်ကြားက သံယောဇဉ်ကို သူက အနီးကပ်နေခဲ့ရတော့ ပိုလို့ပင် သဘောပေါက်၍ သနားမိသည်။

“အရက်မူးတော့ ကျွဲခိုးပေါ်တဲ့၊ ခုတော့ အရက်တွေကနေ မျက်ရည် အဖြစ်ပြောင်းကုန်ပြီး”

ခေါင်းငိုက်စိုက် အသံရှိုက်ငိုနေသော ဖုဇလီကို ကြည့်ပြီး ဇံပလည်း စိတ်မကောင်းဖြစ်မိသည်။

“သူကတော့ ပျော်နေရှာမှာပေါ့၊ သူစိတ်ချမ်းသာတဲ့ အချစ်နဲ့ တွေ့နေရတော့၊ သူကတော့ ပျော်နေမှာပါ”

“အရမ်းမူးနေပြီး ညီငယ်”

"သူကတော့ ကျွန်တော်ကို မေ့နေလောက်ပြီးလေ၊ ကျွန်တော်မှာတော့ သူ့ကို လွမ်းရတယ်၊ သတိရတယ်၊ အခုတော့ ကျွန်တော် သူကြောင့် ရူးတော့မယ်"

"သူ့ဖုန်း မဆက်လည်း ညီငယ်ဆက်လိုက်ပေါ့"

"ကျွန်တော် ဖုန်းဆက်လို့ သူမကိုင်ရင် ကျွန်တော် ပိုကြေကွဲရမှာဗျ"

"ညီငယ်ကလည်း ဒါဆို သူ့ကို သွားတွေ့ပေါ့"

"သွားတွေ့ရမယ် ဟုတ်သလား"

"အင်းလေ သွားတွေ့လိုက်ပေါ့ သတိရလို့ လာလည်တယ်ဆိုရင် သူက မောင်းမထုတ်ပါဘူး"

"သူက မောင်းမထုတ်ပေမယ့် ကျွန်တော်သွားတွေ့လို့ ထွက်ပြီး လက်ခံစကားမပြောရင် ဘယ်လို လုပ်မလဲ"

"ညီငယ်ပဲ လွမ်းတယ်ဆို"

"အင်းလေ"

"လွမ်းရင် မျက်နှာလေး မြင်တော့ အလွမ်းပြေတာ မဟုတ်ဘူးလား"

"ဟုတ်တယ်နော်"

"အရင်လို အခန်းရှေ့ကနေ လှည့်ပြန်တာမျိုး မလုပ်ဘဲ သွားတွေ့လိုက်ပါကွာ ညီငယ်ရယ်"

"အင်း ကျွန်တော် သွားတွေ့မယ် အခု သွားတွေ့မယ် ထ"

"ညီငယ်ရယ် မင်းအခု အရမ်းမူးနေတော့ သွားတွေ့ဖို့ အဆင်မပြေဘူးလေ၊ နောက်နေ့မှ တွေ့တော့၊ ခုတော့ အိမ်ပြန် နားရအောင်"

"ဟာကွာ...အစ်ကိုကလဲ အစ်ကိုပြောတော့ သွားတွေ့ဆို၊ ခုကြတော့ မတွေ့နဲ့တဲ့၊ အစ်ကို တော်တော်ရက်စက် တယ်ကွာ၊ အစ်ကိုက ကျွန်တော် ချစ်သူထက်တောင် ရက်စက်သေတယ်"

"ညီငယ်ရယ် အခုတောင် အသံက ဗလုံးဗထွေးတွေနဲ့၊ ကဲလာ ထတော့ ပြန်ကြရအောင်"

"ဆွဲထူး"

ကိုဇံပလည်း ဖှဇလီကို ဆွဲထူးပြီး အိမ်ပြန်ခဲ့ရသည်။ ငယ်ရွယ်သူတွေ သံယောဇဉ်က တော်တော် ကြောက်ဖို့ပင် ကောင်းလှသည်။

< < < < < < < < < < < < < < < < > > > > > > > > > > > > > > > >

ညနေ အလုပ်ကပြန်လာပြီးနောက် ရေချိုး၊ ထမင်းစားပြီး ကျော်ကျော် တစ်ယောက် TV ကြည့်နေသည်။ ထိုအချိန် တံခါးခေါက်သံကြောင့် ကျော်ကျော် တီဗွီ ကြည့်နေရာမှ ထလာကာ စိတ်မပါစွာ တံခါးဆီသို့လှမ်းလိုက်ပါသည်။

"ဒီအချိန်ဘယ်သူများလာတာပါလိမ့်"

တံခါးဖွင့်လိုက်တော့

"ဟင်.....ဖော့ဇလီး"

"ကြောင်ကြောင်"

ကျော်ကျော် အံ့သြမင်သက်စွာ ငေးကြည့်နေမိတော့သည်။ ချစ်သူသည် တံခါးမတွင် မတ်မတ်ရပ်လျှက်၊ သူ၏ စိတ်အထင် အမြင်မှားသလားဟု ထင်မိရသော ချစ်သူမျက်ဝန်းသည် လွမ်းလျှနေသည်။

မျှော်နေတုန်းကတော့ ပေါ်မလာ၊ မမျှော်ကာ ထားသည့် တစ်လကျော်လောက်မှ ရောက်လာသည့် ဖော့ဇလီ ကြောင့် ကျော်ကျော် ဝမ်းသာရမှာလာ ဝမ်းနည်းရမည်လာ ဝေခွဲမရတော့၊ ရင်ထဲမှာတော့ အရင်တုန်းကလိုပဲ ရင်ခုန်နေဆဲ။ ပြန်တွေ့ကြရင် အရင်လိုပဲလား ချစ်သူရယ်။

တိုင်ပင်မထားသော တိုက်ဆိုင်မှုလား၊ မထင်မှတ်ထားသော အချိန်တွင် မထင်မှတ်စွာ ရှိနေပြန်သည်။ ကံတရားလား၊ တမင်လေလား၊ သူနှင့် တွေ့တိုင်း ဖြစ်ပျက်နေသော အပိုင်းတွေက အမှတ်မထင်တွေက များလှသည်။ ထိုအမှတ်မထင် တမင် တိုက်ဆိုင်ခြင်း မဟုတ်သော အရာများက လွမ်းသူတစ်ယောက်အတွက် အမှတ်တရတွေများ ဖြစ်စေသလား။ ထိုသို့ဆိုခဲ့လျှင် ထိုအမှတ်မထင်သော အမှတ်တမဲ့များကို သူအမြဲ တမ်း ပိုင်ဆိုင်ချင်ပါသည်။

"အိမ်ထဲ ဝင်လို့ရမလား"

"ဟင်....အင်း..."

ကျော်ကျော် ခန္ဓာကိုယ်ကို အနည်းငယ် ဖယ်ပေးလိုက်ကာ ဖာ့ဇလီကို အိမ်ထဲသို့ဝင်စေသည်။ ဖာ့ဇလီနှင့် အတူလိုက်ပါလာသည့် ဇံပ ကို ကျော်ကျော် ပြုံးပြမိလား မပြဘူးလားပင် မသိတော့။ အိမ်ထဲဝင်သွားကြသော သူတို့နှစ်ယောက်နောက်မှ လိုက်လာရင် ကျော်ကျော် တစ်ယောက် အိမ်မက်ထဲ လမ်းလျှောက်နေရသလို စမ်းတဝါးဝါးနှင့် ဖြစ်လို့နေတော့သည်။

အံ့သြမှင်သက်နေသောသူ့အား သတိတရနှင့် လွမ်းလှပါသည်ဟု ပြောချင်နေသော်လည်း အခု တကယ့်လက်တွေ့တွင်တော့ ပြောစရာစကားလုံးများ

ရှာမရခဲ့၊ ရင်ထဲတွင်ပြည့်ကျပ်နေပြီး ထွက်ကျမလာသော စကားလုံးများသည် ဘယ်ရောက်ကုန်ပြီးလဲ။ ပြန်တွေ့လျှင် ဘယ်လောက်လွမ်းကြောင်း ဘယ်လောက် သတိရကြောင်း... ဘယ်လောက် ချစ်ကြောင်းနဲ့ အကြောင်း... များတွေက ဘယ်ရောက်ကုန်ပြီးလဲ၊ ရင်ထဲမှာ အလွမ်းများနှင့်ပြည့်နေတော့ ပြောရမည့်စကားလုံးများ ရှာမရတော့ချေ။

“တစ်ယောက်တည်းနေတာလာ”

“အင်း..”

ဖော့ဇလီ ၏အေးစက်သော စကားသော စကားသံများက ကျော်ကျော်ကိုနည်းနည်းတော့ ထိနာစေသည်။ တစ်လ လောက်ကြာမှ ပြန်ပေါ်လာသောသူသည် အရင်လိုပဲ ကျော်ကျော်အပေါ် ရင်ခုန်အုံးမှာလားလို့မေးလိုက်ချင်သည်။

ဖော့ဇလီ မှာတော့ ညှော့ခန်းက ထိုင်ခုံပေါ်ထိုင်လိုက်ပေမယ့် ဇံပကတော့ သူတို့နှင့် မလှမ်းကွာသော အဝေးကရှိသည့် ပြတင်းပေါက်မှာရပ်ကာ အပြင်ကိုကြည့်နေသည်။

“အားလုံး အဆင်ပြေတယ် မဟုတ်လား”

“အင်းပြေပါတယ် မင်းကော ဘယ်လိုလဲ အားလုံးအေးဆေးသွားပြီလား”

“အင်း.....”

ထိုမေးခွန်းသည် မေးလို့မကောင်းသော မေးခွန်းဖြစ်ပေမယ့် နောက်ကျသွားချေပြီး။ ဖာ့ဇလီ မျက်နှာမကောင်းပဲ ပြန်ဖြေသည်ကို တွေ့လိုက်ရတော့ ကျော်ကျော် စိတ်မကောင်းပါ။

ငါကတော့လွမ်းလိုက်တာကွာ လို့ပြောချင်ပေမယ့် ထွက်မလာပါ။ ထွက်လိုက်တဲ့စကားက တစ်ခြား။

“ခဏနော် ငါကော်ဖီဖျော်လိုက်မယ်”

နေပါစေလို့ ဖာ့ဇလီ မတားလိုက်၊ သူလွမ်းလို့ လာခဲ့သည်။ သို့သော သူကချစ်ရသော ချစ်သူက အေးတိ အေးစက်နှင့် သူ့အားကြိုဆိုသည်။ ဒါကိုတော့ ဖာ့ဇလီ စိတ်မကောင်းပါ။

သူထင်ထားသည်က ကျော်ကျော် သူ့အားတွေ့လျှင် တောထဲမှာတုံးကလို ပြေးဖက်ကာ လွမ်းနေကြောင်းတွေ သတိရနေတဲ့အကြောင်းတွေ ပြောမည်ဟု ထင်ထားသည်။ ခုတော့ အနေဝေးလို့ သွေးအေးသွားသည့် ပုံစံမျိုးဖြင့် ကျော်ကျော်ဘက်က အေးဆေးနိုင်လွန်သည်။ သူကချစ်နေသူဖြစ်နေတော့ ကျော်ကျော်ကို နောက်ကနေပြီး ပြေးပွေ့ဖက်လိုက်ချင်တော့သည်။

သို့ပေမယ့် ကျော်ကျော် ငြင်းလွှတ်လိုက်လျှင် သူရှက်လို့သေလိမ့်မည်။ နောက်ဆုံးနေ့က ကျော်ကျော် ရင်ခွင်ထဲမှာ ငိုခဲ့ရသည့်အချိန်လေးကိုပင် ပြန်လည် တောင်းတနေမိသည်။

ကျော်ကျော် ကော်ဖီခွက်နှစ်ခွက်ဖြင့် ရောက်လာသည်။ တစ်ခွက်ကို ရပ်နေသော ဇံပထံသို့ ပေးပြီးမှ ဖှာ့ဇလီကို တစ်ခွက်ပေးလိုက်သည်။

တအောင့်ကြာသည့်အထိ သူတို့တွေဘာစကားမှ မထွက်လာကြ အခန်း ငယ်သည် မလိုအပ်ပါပဲ တိတ်ဆိတ် နေတော့သည်။ တိတ်ဆိတ်မှုကိုစတင် ဖြိုခွဲသူက ဇံပ ဖြစ်သည်။

"ညီငယ် ကိုအပြင်ကစောင့်နေမယ် ဆေးလိပ်သောက်ချင်လို့"

"အော်ဟုတ်ကဲ့"

ဖှာ့ဇလီ ပြန်ဖြေလိုက်သည်ကို ကျော်ကျော် လိုက်ကြည့်နေမိသည်။ ဇံပကတော့ အပြင်ရောက်သွားပါပြီ။

"မင်းကို ညီငယ်လို့ ခေါ်တယ်နော် အခေါ်ဝေါ်တွေတောင် ပြောင်း ကုန်ပြီး"

ကျော်ကျော် အသံများက သဝန်တိုသံဘက်များ ဖြစ်နေသလား။ ထို စကားလုံး ထွက်သွားပြီးမှ ကျော်ကျော် နောင်တ ရမိသည်။

“အင်း ဟုတ်တယ် အဘိုးက အဲ့ဒီလိုခေါ်ရမယ်ပြောလို့လေ”

“အော်”

“မင်း ကောင်းမလေးနဲ့ရော အဆင်ပြေလာ”

“ဘယ်သူ ...ငါ့ကောင်းမလေး..ဟုတ်လာ”

“အင်း...ဟို...ဓါတ်ပုံထဲကကောင်းမလေး လေ”

“အော် နှင်းနွဲ့ကိုပြောတာကိုး အင်းသူတို့ အဆင်ပြေကြပါတယ်”

“သူတို့ ဆိုတာက...”

“သူတို့ ဆိုတာက သူတို့လင်မယားပေါ့”

“သူတို့ လင်မယား ဟုတ်လား”

“အင်းလေ ဘာဖြစ်လို့လဲ”

ဖှဲ့ဇလီကို ကျော်ကျော် နာမလည်သလို ကြည့်လိုက်တော့ အံ့သြမှုတွေနဲ့ပြန်ကြည့်နေရှာသည်။

“မင်းဆေးရုံးက မဆင်းခင် သူမ လာသေးတယ် မဟုတ်လာ”

“အင်းလာတယ်.....ဒါနဲ့နေပါအုံး မင်းက ဘယ်လိုသိတာတုံး”

ဖော့ဇလီ ပြန်ဖြေရန်ခက်နေသည်။ ထိုနေ့က သူလှည့်ပြန်သွားသည်ကို ကျော်ကျော် ကိုအသိမပေးခဲ့ဘူး မဟုတ်လာ။

“ဒီလိုပါပဲ”

“မဟုတ်မှလွဲရော မင်းအဲဒီနေ့က နှင်းနွဲ့တို့လာတာ တွေ့လိုက်တယ်ပေါ့”

“အင်း..”

“ဒါနဲ့များ ငါ့ဆီတောင် မလာဘူး”

“အင်းငါနည်းနည်း အလုပ်တွေ ရှုပ်နေလို့ပါ”

“အော်”

စကားသံများ ပြန်ပျောက်သွားတော့သည်။ ဖော့ဇလီ အောက်ကို ငုံ့ကြည့်နေရာကနေပြီး ကျော်ကျော်လက်ကို တွေ့လိုက်တော့ စိတ်မကောင်းချေ။ ကျော်ကျော်လက်မှာ အပူလောင်ထားတဲ့ ဒဏ်ရာ အမာရွတ်ကလေးက အနည်းငယ် ပေါ်နေသည်။

ဆေးရုံက အမာရွတ်ပျောက်အောင် လုပ်ပေးပါသည်။ ကျော်ကျော်က တမင် အနည်းငယ် ချန်ထားပြီ သူနှင့် ဖော့ဇလီကြားက အမှတ်တရ ရှိစေရန် ရည်ရွယ်ခဲ့ခြင်း ဖြစ်သည်။

ကျော်ကျော်ကို မေးလိုက်ချင်သည်။ ငါ့ကို အရင်လို ချစ်တုန်းလားလို့....

ဖွင့်ပြောထွက်ရန်လည်း ဖာ့ဇလီမှာ ရှက်လို့နေပါသည်။ သို့ပေမယ့် သူပျော်ပါသည်။ ကျော်ကျော်သည် တစ်ယောက်တည်း ဖြစ်နေသည်ကို သူပျော်ပါသည်။ ကျော်ကျော်ကိုလဲ လွမ်းလှသည်။ ပထမဦးဆုံးသော အနမ်းကို ကျော်ကျော်က ဖမ်းယူခဲ့သည်။

ထိုအနမ်းသည် မနုညံ့သော ကြမ်းလျှနေသည့် အနမ်းတစ်စုံကို သူမက်မော နေမိပါသည်။ ထိုအနမ်းများကို ပြန်လိုချင်သည်။ ငါ့ကို ပြန်ပေးပါလားလို့ ကလေးတစ်ယောက်လို သူတောင်းလိုက်ချင်တော့သည်။

ဖာ့ဇလီ ကြာကြာထိုင်လို့ မဖြစ်တော့ချေ။ ကျော်ကျော်ကို စိတ်မထိန်းနိုင်ပဲ ထနမ်းမိမှာ စိုးလှသည်။ ကျော်ကျော် ကသူ့အနမ်းကို လက်ခံတယ်ဆိုရင်တော့ သူဝမ်းသာမည်။ လက်မခံဘူးဆိုခဲ့လျှင် သူရှက်လို့ သေသွားနိုင်သည်။ ထို့ကြောင့် ဖာ့ဇလီ ပြန်ရန်ပြင်လိုက်တော့သည်။

"ငါ ပြန်တော့မယ်"

"အော်...အင်း...ဂရုစိုက်သွားနော်"

ဖာ့ဇလီ လိုချင်သည်က ထိုအဖြေမဟုတ်၊ မပြန်ပါနဲ့အုံးလို့ တားရမည် မဟုတ်လာ။

ကျော်ကျော်သည်လဲ မတားရဲပါ။ သူလို သာမန် လူတစ်ယောက် အတွက်တော့ ဖှဲ့ဇလီ ကိုတားခွင့်မရှိသည်။

ဖှဲ့ဇလီ ထွက်သွားသည်ကို နောက်ကျောပြင်မှ ငေးကာ လွမ်းစွတ်နေသည့် မျက်ဝန်းတစ်စုံကတော့ ကျန်ခဲ့ပါတော့သည်။

ဇံပ ကားမောင်းနေရာမှ နောက်ကြည့်မှန်ကနေပြီး ဖှဲ့ဇလီကို ကြည့်လိုက်တော့ မျက်နာမကောင်းသည်ကို တွေ့လိုက်ရသည်။

"ညီငယ် ကျော်ကျော် နဲ့အဆင်မပြေဘူးလာ"

"ဗျာ....ဘာပြောလိုက်တာလဲ အကို"

"ညီငယ် ကျော်ကျော် နဲ့မတွေ့ခင်ကတော့ သူဆီသွားချင်တယ် တတွတ်တွတ်ပြောနေပြီး ခုကျတော့ မပျော်သလိုပဲ အဲ့ဒါကြောင့် မေးကြည့်တာပါ"

"အော်...ဘာမှမဖြစ်ပါဘူး ဒီလိုပါပဲဗျာ"

"အင်း..လေ..ဘာမှမဖြစ်ရင်လည်း ပြီးတာပါပဲ"

ဇံပ စိတ်ထင်များလာ ဟုသံသယရှိမိသည်။ ဖှဲ့ဇလီ မျက်ဝန်းထဲမှာ မျက်ရည်စများလာလို့ပါ။

ငြိမ်သက်နေရာမှ ဖှဲ့ဇလီ သည် ဇံပကို ပြောလိုက်ပါသည်။

“ကျွန်တော် နည်းနည်း ညစ်နေလို့ ဘီယာလေးသောက်ချင်တယ်”

“အင်း အစ်ကို ဝယ်ပေးမယ်လေ”

“ဒါဆို ကျွန်တော်ကားပေါ်က စောင့်မယ် အကိုလည်းသောက်ချင် သောက်ရအောင် ဝယ်ခဲ့ပေါ့ များများသာ ဝယ်ခဲ့ ပြီးရင်ကမ်းခြေ တစ်ခုခု သွားပြီးသောက်ရအောင်”

“ကောင်းပါပြီး”

ဇံပ တို့ကမ်းခြေ ရောက်ကြတော့ ဖာ့ဇလီက ဘီယာ များကို မနားတမ်း သောက်နေပါတော့သည်။ ဇံပ လည်း တားမနေတော့ပါ ကောင်လေး စိတ်ညစ်နေသည်မဟုတ်လား။ ဘာကိုစိတ်ညစ်နေလဲတော့ ဇံပ မသိပါ။ ထိုကြောင့် ဒီအတိုင်းသာ ကြည့်နေလိုက်သည်။ ဇံပကတော့ ကားမောင်း ရမည် ဖြစ်သောကြောင့် သိပ်တော့မသောက်ပါ။ သူ့မှာ တာဝန်နဲ့ မဟုတ်လာ။

ဖာ့ဇလီ မူးလာတော့ စကားများ ပြောထွက်လာသည်။ ဇံပမှာ စိတ်လည်း အနည်းငယ်ညစ်မိသည်။ ဖာ့ဇလီ စကားများက တောင်ရောက် မြောက် ရောက် နှင့်ဘာတွေပြောနေသည်ကို နားမလည်တော့ချေ။

“ရက်စက်တယ်ဗျာ”

"...အဲ..."

"ငါမှာတော့ သူကိုချစ်လိုက်ရတာ"

"...အဲ..."

"ငါကိုလွမ်းဖေါ်တောင်မရဘူး ဖုန်းလဲမဆက်ဘူး နေနိုင်တယ်ကွာ"

"ဘယ်သူတုံး မင်းကောင်မလေးက"

"ဘယ်ကကောင်မလေး ဟုတ်ရမှာတုံး"

"ဟေ...."

"ကျွန်တော်ကို အနမ်းကြမ်းကြမ်းတွေ ပေးသွားတဲ့သူကိုပေါ့ဗျ"

"အမ်..."

"ဟုတ်တယ် တော်တော်ဆိုးတဲ့ကောင် ကျွန်တော်ရဲ့ပထမဆုံး အနမ်းကို ဓားပြတိုက်ပြီး ယူသွားတာ"

"...ဓားပြ..."

ထိုစကားကြောင့် ဇံပ ကျော့ပင်ချမ်းသွားသည်။ ဘယ်ကောင်က ဒီကလေးကို နမ်းသွားတုံးဟု သေချာ စဉ်းစားနေသည်။ မည်သို့မှ အဖြေမထွက်လာ။

“ခုကြတော့ သူမဟုတ်သလိုပဲ နေနိုင်လိုက်တာ”

“.....”

ဇံပ နောက်သို့ အနည်းဆုတ်လိုက်သည်။

“ကျွန်တော်မှာတော့ တစ်ဖက်သက် လွမ်းနေရတာ ....တောက်”

“သောက်ပလုတ်တုတ်”

အသာလုပ်ပါဟ၊ ဖာ့ဇလီ ဒေါကန်ကန် ဖြင့် ဘီယာကိုကောက်ပေါက်လိုက်၍ ဇံပ မှာ လန့်ဖြန့်သွားသည်။

“ညီငယ် စိတ်ထိန်းပါအုံးဟ”

“ကြောင်ကြောင်ရေ..”

“အဲ...”

“အို....ကြောင်ကြောင်ရေ...”

“ဘယ်က ကြောင်ကြောင်တုံး”

“ဘယ်က ကြောင်ကြောင်ရမှာလဲ ဒီရင်ဘက်ထဲက ကျွန်တော်ချစ်တဲ့ ကြောင်ကြောင်ပေါ့”

“အွင်း......”

“ဟုတ်တယ် ကျွန်တော်ချစ်တဲ့ ကြောင်ကြောင်လေ ခုတော့ ကျွန်တော်ကို ကော်ဖီတစ်ခွက်နဲ့ နှစ်သိမ့်ဆု ပေးလိုက်တဲ့ ကြောင်ကြောင်ပေါ့”

“အာ....ကျော်ကျော်ပါဟ”

“ဟုတ်ဘူး ကျွန်တော်အတွက်တော့ ကြောင်ကြောင်ပဲ”

“ဘယ်လို.. နေ..နေပါအုံး...အိုမိုင်ဂေါ့စ်....မင်းက ကျော်ကျော်ကို ”

“ဘာဖစ်လဲ ကြော..”

“မင်းတို့က ချစ်နေကြတာလား၊ ရိုးရိုး သံယောဇဉ် မဟုတ်ဘူးလား”

“ဟုတ်ဒယ်....တုတို ဂျစ်နေဒါ”

“ဟာကွာ မင်းမူးနေပြီး”

“မူးပါဝူးဂျာ...”

“လာလာ ပြန်ကြမယ်”

“ကျန်ဝူး... ကြောင်ကြောင်တို ထော်ပေး...ထော်ပေး”

မူးသာမူးသည် ကြောင်ကြောင် ကတော့ ပီအောင်ခေါ်နိုင်သေးသည်။ ဇံပ တိုင်နှင့်ခေါင်းသာ ပြေးဆောင့် လိုက်ချင်တော့သည်။

“ပြန်ကြရပါအောင်ကွာ ညီငယ်ရာ အဘိုးသိရင် မကောင်းဘူးကွ”

“အာ…အတိုကလည်းကွာ ကြောင်ကြောင်ကို ထော်ပေးဆိုကွာ”

“အင်းပါကွာ နောက်ရက်မှပဲ ထော်ပေး ဟာ မဟုတ်ပါဘူး ခေါ်ပေးမယ်ကွာ နော်”

ထိုရက်က ဇံပသည် ဖှဲ့ဇလီကို တော်တော်စိတ်ညစ်စွာ သည်းခံရတော့သည်။ ထိုညက ဇံပသည် ဖှဲ့ဇလီ၏ ရင်တွင်းဖြစ်များကို သည်းခံကာ စိတ်မချမ်းမြေ့စွာ ဖြတ်သန်းခဲ့ရသည်။ ဇံပသည် ဖှဲ့ဇလီ အတွက်တော့ စိတ်မကောင်းပါ။ အားလဲမပေးချင်၊ လူငယ်သဘာဝကြောင့် သာမန်သာယာမှုတစ်ခုဖြစ်ပါစေလို့ ဆုတောင်းပေး ရတော့သည်။

ဇံပ၏ ဆုတောင်းမပြည့်ခဲ့ပါ၊ ထိုသို့ဖြစ်ပြီး နောက်ပိုင်းရက်များတွင် ဖှဲ့ဇလီ ကိုထိန်းသိမ်းကာ အနားတွင် စောင့်ရှောက်နေရသောကြောင့် ဖှဲ့ဇလီ၏ စိတ်ထားများကို တည်မိခေါက်မိသည့် အနေထားမှ နားလည်လာခဲ့သည်။ ဖှဲ့ဇလီမှာ လူငယ်ပီပီ တက်တက်ကြွကြွ သိပ်မရှိတော့ ငေးမော ငိုင်တွေးနေတာက များနေသည်။ အဘိုးလုပ်သူကပင် မေးလာတတ်ခဲ့သည်။

"ဇံပ မင်းကောင် စိတ်တွေညစ်နေတာလား ဘာတွေဖြစ်နေလဲ သေခြား ဂရုစိုက်ပါအုံးကွာ ငါ့မှာဒီမြေးလေးပဲ ရှိတာ တစ်ခုခု သိအောင် လုပ်အုံး"

ထိုသို့သော် စကားများဖြင့် သတိပေးကာ ပြောလာသည့်အထိ မိသားစုဝင်များပင် သတိထားလာတော့သည်။ ဖာ့ဇလီ အတွက်တစ်ခုခု လုပ်မှ ဖြစ်တော့မည်။ အဖြူအမည်း သဲကွဲသွားအောင် လုပ်ဆောင်ရမည်။ ဇံပ မိမိတစ်ယောက်တည်း အစီအစဉ်များ ရေးဆွဲလိုက်တော့သည်။

<<<<<<<<<<<<<<<<<<<>>>>>>>>>>>>>>>>>>>>>>

ဒေါက်...ဒေါက်...

တံခါးခေါက်သံကြောင့် ကျော်ကျော် သွားဖွင့်ပေးလိုက်တော့ မထင်မှတ်ထားသော ဇံပ ကို တွေ့လိုက်ရတော့သည်။ ဇံပကို ကျော်ပြီး နောက်သို့ မျှော်ကြည့်မိသေးသည်။

"အော်ကိုဇံပ လာလေ၊ လက်ထဲက ဘာတွေတုန်း"

"အေးကျော်ကျော် မင်းနေကောင်းလာလို့ ခဏ ဝင်လာကြည့်တာ၊ လက်ထဲက ဘီယာဖာလေ ပြီးတော့ အမြည်း"

"အော်ဟုတ်ကဲ့ ကျေးဇူးတင်ပါတယ်"

ကျော်ကျော် အဖြေသာပေးလိုက်သည်။ မျက်လုံးများက ကိုဇံပကို ကျော်ကာ နောက်သို့ကြည့်နေမိသည်။ ဇံပ သိပေမယ့် မသိချင်ယောင် ဆောင်ထားလိုက်သည်။ ကိုဇံပ အိမ်ထဲဝင်သွားသည့်အထိ ကျော်ကျော်က တံခါးဝတွင် ရပ်လျှက် အပြင်သို့ကြည့်နေသေးသည်။

"ဘယ်သူမှ မျှော်မနေနဲ့ ငါတစ်ယောက်တည်းလာတာ"

"အော်...အဟက်...ဘယ်သူမှမျှော်ပါဘူး ဒီအတိုင်းကြည့်နေတာ"

"အေးပါ အေးပါ လာကွာ ငါလဲပျင်းနေတာနဲ့ မင်းနဲ့သောက်မလို့ ဘီယာဝယ်လာတယ်"

"အော်..."

"အမြည်းတွေလည်းပါတယ် ဘဲကင်လေ၊ ထည့်ဖို့ ပန်းကန် ယူခဲ့ပါအုံး"

ဇံပပြောသလို လိုက်လုပ်နေရသော ကျော်ကျော်မှာတော့ သံပတ်ပေး ထားသည့် စက်ရုပ်သဖွယ် ဖြစ်နေ တော့သည်။

နှစ်ယောက်သား သောက်လိုက်ကြသည်မှာ ပါလာသည့် ဘီယာ အလုံး ၂၀ လည်း ၂ လုံးသာကျန်တော့သည်။

“မင်းသောက်နိုင်သာပဲ”

“ကိုဇံပကိုတော့ ဘယ်မှီမလဲဗျာ”

“မင်းမူးသေးဘူးလာ”

“နည်းနည်းတော့ ရီဝေဝေ ဖြစ်တာပေါ့”

“မင်းကောင်းမလေးရော ဘယ်လိုလဲ”

“ဘာကိုလဲဗျ”

“မင်းကောင်းမလေးလေ

မင်းကိုဆေးရုံးမှာလာတွေ့တဲ့ကောင်မလေး”

“အော်...သူက သူငယ်ချင်းပါဗျာ... သူဘဝနဲ့သူပါဗျာ ကျွန်တော်နဲ့ ဘာမှ မဆိုင်ပါဘူး”

“အော်...ဒီလိုလာ....ဒါနဲ့ မင်းကြားပြီးပြီလာ”

“ဘာကိုလဲဗျ”

“ဖာ့ဇလီ ကိုသူ့အဘိုးက မိန်းမ ပေးစားတော့မှာ”

“............”

ဇံပ ကျော်ကျော်ကိုကြည့်လိုက်တော့ မျက်နာကြီးက အောက်ငုံ့ကာ သူ၏ခြေထောက်ကြီးကို ကြည့်နေတာတွေ့ ရတော့ မျက်နာကို မည်သို့မှ ဖတ်လို့မရချေ။

“အဲဒါကွာ ဒီကောင်လည်းပျော်နေတာ ငါ့တောင်သတိမရဘူး ဖြစ်နေတာ”

“.........”

“ဒါကြောင့်ငါလဲ ပျင်းနေတာနဲ့ မင်းဆီကိုထွက်လာတာ”

“သူ...ပျော်နေတယ်ပေါ့...”

“အင်း မပျော်ဘဲ ရှိမလာကွ ကောင်းမလေးက ချောချောလေ ဒါကြောင့်ဒီကောင် ကြွေနေတာပေါ့”

“အော်....”

ကျော်ကျော် အသံကခြောက်ကပ်ကပ် ထွက်လာသည်ကိုတော့ ဇံပ ခံစားရပါသည်။ သို့ပေမယ့် ဒီကောင်ဖာ့ဇလီ လောက်တော့ ပွင့်အန် ထွက်မလာချေ။ ဇံပမကျေနပ်သေးပါ။

“သူတို့က ငယ်ငယ်ကတည်းက ရင်းနှီးနေကြတာ မိဘတွေလဲ သိ...xxxxxxx xxxxx xxxxxx xxxxxx xxxxx”

ကိုဇံပကတော့ ပြောနေသည်။ ဘာတွေပြောနေသည်ကိုတော့ ကျော်ကျော် နားထဲမဝင်လာတော့၊ ကျော်ကျော် ရင်ထဲမှာ မုန်းတိုင်းငယ် ဖြတ်သန်းနေသည်။ ရင်တွင်ထဲမှာ ကြွေမွနေတော့သည်။ ပျော်ရွှင်ခဲ့ရသည့် အချိန်က အနည်းငယ်သာ၊ သို့ပေမယ့် ကျော်ကျော် ရင်ထဲမှာတော့ တစ်ဘဝစာပါ။ ဒါကိုဖော့ဇလီ သိရဲ့လား။

"မင်းရော လာမှာလား"

"......."

"ဟေ့ကောင် ကျော်ကျော် ဘာဖြစ်နေတာလဲ"

"ဗျာ...ဘာပြောလိုက်တာလဲ"

"မင်းငါပြောတာ ဘာမှ မကြားဘူးလာကွာ ငါ့မှာတော့ ပြောနေလိုက်တာ အမြုပ်ထွက်တော့မယ် မင်းကတော့ မတုန်မလှုပ်ကွာ တိုင်ကြီးကို စကားပြောနေရသလိုပဲ"

"အော် ....ကျွန်တော် တောင်းပန်ပါတယ် ကျွန်တော်မကြားလိုက်လို့ ဘာပြောလိုက်တာလဲ အစ်ကို"

"မင်းသူတို့ မင်္ဂလာဆောင်ကြရင် လာမှာလားလို့ မေးတာ"

"သူတို့......"

"အင်း."

"သူတို့မင်္ဂလာဆောင်က ဘယ်တော့လဲ"

"ရက်တော့မသိသေးဘူးပေါ့ ဆောင်တဲ့ရက်ကြရင် မင်းလာမှာလား လို့မေးတာ ငါကမင်းနဲ့ပဲသိတာလေ မင်းလာမှ ငါလည်း ယောင်တောင်တောင် မဖြစ်မှာ သူတို့အသိုင်းဝိုင်းက ငါမသိတာများတယ်လေ"

"အော်....ဟုတ်ကဲ့..လာရမှာပေါ့လေ..လာရမှာပေါ့"

ဇံပမှာတော့ အမြုပ်ထွက်အောင်ပြောပြီး ခံစားချက်များထွက်မလာလို့ ပြောလိုက်ရတာ ဒင်းကတော့ ဘာမှမဖြစ်သလို ကျောက်ရုပ်၊ ဒီကောင် ဖဲ့ဇလီကို သာမန်လိုပဲ သဘောထားလို့ ဖြစ်မှာပါ၊ ဒါလဲ ကောင်းပါတယ်လေ။ ထိုနောက် ဇံပ ပြန်ရန် ပြင်လိုက်တော့သည်။

"ကဲ ငါပြန်တော့မယ်"

"ဟုတ်.."

ဇံပပြန်သွားသည်ကို ကျော်ကျော်လိုက်မပို့ဘဲ ဒီအတိုင်း ကျောက်ရုပ် သဖွယ် ထိုနေရာတွင် ထိုင်နေပြီး ခေါင်းကြီးငုံ့ကာ ကျန်နေသည်ကို ဇံပမှာတော့ ကြောင်တောင်တောင်ဖြင့် ထပြန်လာရတော့သည်။

“တောက်…ငါလဲအရှုံးပဲ ဘာမှမဖြစ်တာကို အလုပ်မှတ်နေတယ်.. တောက်..၊ ငါ့မှာတော့ အရှုံးလိုပဲ မဖြစ်နိုင်တဲ့ ဇာတ်လမ်းကို အဟုတ်မှတ်ပြီး အမူးပြောသမျှယုံပြီး လိုက်လုပ်ကြည့်နေမိတယ် ဟိုကောင်ကတော့ ဘာမှမဖြစ်ဘဲ ကျောက်ရုပ် တုတ်တုတ်မှမလှုပ်၊ ဖာ့ဇလီရေး မင်းအတွက်တော့ စိတ်မကောင်းဘူး ကျော်ကျော် ကတော့ မင်းအပေါ်မှာ သာမန်ပဲကွ”

ဇံပ တစ်ယောက် တစ်ကိုယ်တည်းပြောကာ ထထွက်လာရင် ရပ်ထား သော ကားပေါ်တက်လိုက်ရင်က.

“မဟုတ်တော့ မဟုတ်သေးဘူး....ဒီကောင်ကို ဒဲ့ပြောလိုက်ရတာ ကောင်းမှာပဲ၊ ဖာ့ဇလီက မင်းကို ကြွေနေတယ်ကွလို့၊ အင်း ဒီအတိုင်းပဲ ပြောလိုက်တာကောင်းမယ်၊ ပြန်သွားပြောတာ ကောင်းမယ် ဒီကောင်ကို”

ဇံပ ကားပေါ်မှဆင်းကာ ကျော်ကျော် အိမ်ဆီသို့ ပြန်လှည့် ပြန်လာ တော့သည်။

ကျော်ကျော် ရင်ထဲမီးတောင်ကြီးပေါက်ကွဲသွားတော့သည်။ ကိုဇံပ ထထွက်သည်ကို သိလိုက်သည်။ ထိန်းထားသည့် စိတ်များလွတ်ထွက် သွားကာ ပေါက်ကွဲကုန်တော့သည်။

ဒုန်း...........

လက်သီးလက်စုံကို အားရပါးရ စားပွဲခုံပေါ်သို့ ပစ်ချလိုက်တော့သည်။

“မင်းလုပ်ရက်တယ် ဖားဇလီး...မင်းရက်စက်တယ်.....”

“အား.............”

သံကုန်အော်ဟစ်လိုက်ကာ မျက်ရည်များ ရင်တွင်းထဲကနေပြီး ကျကုန်တော့သည်။ မျက်ရည်စိမ်းများသည် ပူပြင်းလှသည်။ ကျော်ကျော် ခံရခက်ပါသည်။ ကျော်ကျော် အသဲကွဲဖူးပါသည်။ နှင်းနွဲ့တုံးက ခံစားရသည့် ခံစားမှုနှင့် ခြားနားစွာ ကွဲလွဲကုန်သည်။

ယခုခံစားရသည့် ခံစားမှုသည် ဘာမှပြောပြပိုင်ခွင့် မရှိ၊ ဘာမှထုတ်ဖော် ဟစ်အော်လို့မရသည့် ဝေဒနာသစ်တွေ၊ ကိုယ်တိုင် ပူလောင်လှပါသည်။

မင်းရက်စက်တယ်၊ မင်းကိုငါမှာတော့ ချစ်လိုက်ရတာ၊ မည်သူကိုမှ မချစ်ဖူးသည့် အချစ်နှင့် ချစ်ခဲ့သည်ပါ၊ ငါ့ကိုငါထက် မင်းကိုပိုချစ်ခဲ့တာပါ၊ ဒါတွေက ငါ့ခန္ဓာကိုယ် ပေါ်ကသေထိ ဆွဲပါသွားမည့် ဒဏ်ရာတွေပါကွာ၊ မင်းကို ငါဘယ်တော့မှ မေ့လို့မရတဲ့ အချစ်တွေနဲ့ပါပဲကွာ။

အား...............အာ....

"ငါ့ကို ဒီတစ်ရက်တော့ ငိုခွင့်ပြုပါ ချစ်သူ ငါရင်ထဲမှာ မင်းအတွက် ခံစားရတာတွေကို ထွေးထုတ်ပစ်တာတော့ မဟုတ်ပါဘူး ဒီလိုမှ မလုပ်ရင်လေ ငါသေသွားနိုင်လို့ပါကွာ....."

ကျော်ကျော် အားရပါးရ ငိုရင် ခံစားမှုများစွာ ပြစ်ထုတ်လိုက်တော့သည်။ ကျော်ကျော် ခံစားချက်ပေါက်ကွဲ အချိန်တွင် ဇံပတစ်ယောက် တံခါးဝတွင် ရှိနေခဲ့ပြီး၊ တံခါးကို အသာပြန်စေ့ကာ တိတ်တဆိတ် ထွက်သွားသည်ကို တော့ ကျော်ကျော် တစ်ယောက် မသိရှိခဲ့ချေ။

ဇံပမှာတော့ ခုမှ အလုံးကြီးကျကာ ပြုံးပျော်မိသည်။ သူတို့ကတော့ ငိုနေချိန်မှာ ဇံပတစ်ယောက် ကတော့ သူတို့ ငိုတာကို ပြုံးပျော်နေမိသည်။ ဇံပရဲ့ အပျော်များက ရည်းစားတစ်ယောက် ရသလိုကို ပျော်မိသည့် အပျော်မျိုး ဖြစ်ပါတော့သည်။

<<<<<<<<<<<<< >>>>>>>>>>>>>

# အခန်း (၉)

ကျော်ကျော်တစ်ယောက် ဒီရက်ပိုင်း ဝေါင်ကာ အသဲမျှားကွဲနေပါသည်။ ချစ်ရသူက သူမဟုတ်တဲ့ အခြားသော မိဘ သဘောတူသူနဲ့ လက်ထပ်တော့မည့် သတင်းက ကျော်ကျော်ကို တော်တော် ဒုက္ခပေးကာ မပျော်ရွှင်နိုင်အောင် ဖြစ်နေရသည်။

အလုပ်ကလဲ မဆင်းလို့ မဖြစ်သည့်အတွက် အလုပ်ကို နေ့တိုင်းသွားနေရသောလည်း စိတ်ကမပါချေ။ ထမင်းစားချိန်မှာ နှင်းနွဲ့ကို ဖုန်းခေါ်လိုက်သည်။

တစ်ဘက်မှ နှင်းနွဲ့ ထူးသံကို ပြန်ကြားလိုက်ရသည်။

"ဟယ်လို သူငယ်ချင်းပြော"

"အင်း နှင်းနွဲ့ နင်နေကောင်းသလား"

"ကောင်းတယ်ဟ နင်ရော"

"နေတော့ကောင်းပါတယ် စိတ်ကတော့ မကောင်းဘူး"

"ဘာဖြစ်လို့လဲ အိမ်က တစ်ခုခုဖြစ်လို့လား"

"ဘာမှ မဖြစ်ပါဘူး၊ ဒီရက်ပိုင်း အိမ်လည်း ဖုန်းမဆက်ဖြစ်ဘူး"

"ဟဲ့ ကျော်ကျော်ရယ် ဆက်မှပေါ့၊ နင်ကလည်း နေနိုင်လိုက်တာ"

"အင်းပါ ပိုက်ဆံပို့ဖြစ်တိုင်းတော့ ဆက်ပါတယ်"

"အင်း ငါလည်းပဲ ပိုက်ဆံပို့ဖြစ်တိုင်းပဲ ခေါ်မိတာပါပဲ၊ အခုရော နင်ဘာတွေ လိုအပ်သေးလဲ၊ စားသောက်ရတာရော အဆင်ပြေရဲ့လား ငါဘာချက်ပေးရမလဲ"

"ရပါတယ် အားလုံး အဆင်ပြေတယ်၊ ငါနင့်ကို တစ်ခုမေးချင်လို့"

"အင်းမေးလေ"

"နင် ငါနဲ့ လမ်းခွဲလိုက်တော့ နင်ဘယ်လိုခံစားရသလဲ ငိုသလား"

နှင်းနွဲ့ အသံခဏတိတ်သွားသည်။ ခဏကြာတော့မှ -

"ငါအမှန်အတိုင်း ပြောရမှာလား"

"အင်း အားမနာပါနဲ့ ပြောပါ"

"အစပထမတော့ ငါက မိန်းခလေးဖြစ်ရဲ့နဲ့ နင့်အပေါ် သစ္စာဖေါက်မိသလို ခံစားရပြီး နင့်ကို အရမ်းအားနာ မိတယ်"

"အင်း"

"အဲ့အတွက်ကြောင့်တော့ နင့်ကို သနားပြီး မျက်ရည်ကျမိတာပေါ့၊ နောက်တော့ ငါ့ဆုံးဖြတ်ချက် မှန်ကန်တာကို သိလိုက်ရတော့ နင့်အပေါ်မှာ ရိုးသားစွာနဲ့ ပြန်လည်ခင်မင် နိုင်တော့တယ်"

"အင်း"

"တစ်ကယ်တော့ ငါလေ ငါ့အမျိုးသားကို အရမ်းချစ်မိတယ်၊ ငါ့အပေါ်မှာ အနွံတာခံပြီး ချစ်ခဲ့လို့လည်း သူ့ကို ကျေးဇူးတင်မိတယ်၊ ဒါကြောင့်မို့ နင်နဲ့ပက်သက်သမျှကို သူ့ကို ရိုးရိုးသားသား ပွင့်ပွင့်လင်းလင်း ပြောချလိုက် တော့တယ်၊ အဲ့ဒီအတွက်ကြောင့် ငါ့ကို သူက ပိုချစ်လာတယ်လို့ ခံစားရတယ်ဟ"

"အင်းပေါ့"

"တစ်ကယ်တော့ အချစ်ဆိုတာ ရိုးသားပွင့်လင်းနေရင် အရာအားလုံးက ကောင်းနေတာပဲလေ"

"အင်း ဟုတ်တယ်နော်"

"ဘာလဲ နင်လည်းချစ်သူတွေရနေပြီးလား"

"အင်း ဆိုပါတော့"

"ဟယ် တစ်ကယ်,, ငါ့သူငယ်ချင်းက စိတ်ထားကောင်းတော့ ချစ်သူချောချောလေး ရမှာပဲ၊ ဘာလဲ နင်တို့ စက်ရုံကပဲလား"

"မဟုတ်ပါဘူး ငါလဲ နင့်ကို ရိုးသားစွာနဲ့ ပြောပြပါ့မယ်၊ နောက်မှပေါ့ အခုတော့ ငါ့ချစ်သူဆိုတာကို အတည်ပြု ဖို့ လိုသေတယ်လို့ ထင်လို့ပါ"

"အေးပါ လျှို့မထားနဲ့နော် ၊ အဆင်ပြေရင် မိတ်ဆက်ပေးအုံး"

"အင်း ပေးမှာပေါ့"

"အေး အဲ့ဒါဆို ဒါပဲ အလုပ်ပြန်ဝင်ရတော့မှာမို့ နောက်မှ ပြန်ဆက်မယ်"

"အိုခေ ဒါပဲ သူငယ်ချင်း၊ နင့်အမျိုးသားနဲ့ နင်တို့ အစစအရာရာ အားလုံး အဆင်ပြေပါစေဟာ"

"ပေးတဲ့ဆုနဲ့ ပြည့်ပါစေ"

ဖုန်းချလိုက်တော့ ကျော်ကျော်အနားကို ကျော်ကျော်တို့ရုံးမှ ကောင်မလေး နှစ်ယောက် ရောက်လာသည်။

"ကျော်ကျော်က ဒီရောက်နေတာကိုး နင့်ကို လိုက်ရှာနေတာ"

"ဘယ်သူလဲ သူဌေးလား"

“မဟုတ်ပါဘူး ငါတို့ပါဟ”

“ရှော့”

“ဒါဘာလဲ”

ကျော်ကျော် လက်ထဲသို့ရောက်လာသော လက်မှတ်တစ်စောင်ကြောင့် ကျော်ကျော် ကြောင်သွားသည်။

“ဟဲ့..ကုမ္ပဏီက အပျော်ခရီးထွက်မလို့လေ အဲ့ဒါလက်မှတ်ပေးတာ”

ရုံးမှ မလေးရှားသူ ကောင်းမလေး နှစ်ယောက်က တက်တက်ကြွကြွ ပြောသည်။

“ဒီတစ်ပတ် သောကြာ၊ စနေ၊ တနင်္ဂနွေ ပေါ့ဒစင် ကိုခရီးထွက်မယ်၊ လက်မှတ်တွေ လာပို့တာ နင့်နာမည် လည်း ပါလို့ လာပို့တာ”

“သူဌေးက ပို့တာလား”

“အေးပေါ့ ဒို့တွေ ကုမ္ပဏီက ထွက်တာဆိုတော့ သူဌေးပဲရှိတာကို”

“သူဌေးက ဟုတ်လား..နင်တို့ကလဲ ဟုတ်မှလည်း ပြောပါဟာ”

“အေးဟဲ့ လင်းရဲ့ တို့တွေ သူဌေးက ဒီလောက် ကပ်စီးနည်းတာနော်”

“အိုဘာပဲဖြစ်ဖြစ် ရတဲ့လက်မှတ်လေးတွေ မပျောက်စေနဲ့နော် ဒီတစ်ပတ်ထဲသွားရမှာ”

“ဟုတ်တယ် ဟုတ်တယ် …ဟဲ့ကျော်ကျော် နင်ကလဲ မပျော်သလိုပဲ”

ကျော်ကျော် မှာ တစ်ခြားအချိန်များတွင် ပျော်နေမည်အမှန်ပါ ယခုတော့ ပူပူနွေးနွေး လူမသိ၊ သူမသိ အသဲကွဲနေသည့် ဝေဒနာဖြင့် ခံစားနေရသောကြောင့် စိတ်လည်းမပါ။

“ကျွန်တော် လက်မှတ်ကို တစ်ခြားလူကို ပေးလိုက်ပါလား ကျွန်တော် မလိုက်တော့ဘူး”

“အို…မရဘူး လက်မှတ်ပါတဲ့သူတိုင်း မလိုက်မနေရတဲ့”

“ဟာဗျာ…”

“ဟုတ်တယ်ဟဲ့ အဲ့ဒီ အမိန့်လည်း ပါသေးတယ်နော် လိုက်ခဲ့ပါဟယ် နင်လည်းရောက်ဖူး တာမဟုတ်ဘဲနဲ့”

ကျော်ကျော် ဘာမှပြောမနေတော့၊ ထိုရက်တော့ မလိုက်ရန်စိတ် ဆုံးဖြတ်လိုက်ပါတော့သည်။

<<<<<<<<<<<<<<<<<<<<<<<<>>>>>>>>>>>>>>>>>>>>>>>>>

ထိုလက်မှတ်ပေးပြီးနောက် သောကြာနေ့ သို့ရောက်ရှိလာပြီး ပုံမှန် ညနေ ရုံးဆင်းချိန်သို့ ရောက်ရှိလာသည်။

ကျော်ကျော် အလုပ်ဆင်းသည်နှင့် အေးအေးဆေးဆေး အလုပ်များ သိမ်းကာ အိမ်သို့ပြန်ရန် ပြင်ဆင်ပါတော့သည်။ ရုံးထဲမှ ကောင်မလေးများ ကတော့ ညနေ ခရီးထွက်ရန် တာဆူနေကြကာ ကျော်ကျော်ကို သတိမထားမိကြချေ။ ခရီးထွက်ရန်အတွက် သူတို့တွေ အလုပ်ရှုပ်ကာ နေပါသည်။ ကျော်ကျော် အသာ ထွက်လာ ခဲ့တော့သည်။

"ဟော့ကောင် ကျော်ကျော်"

သူငွေးဖြစ်သူက ရုံးရှေ့မှာကားကြီးဖြင့် ရပ်ကာနေသည်ကို တည့်တိုး သွားတွေ့ပါတော့သည်။

"ဟုတ် သူငွေး"

"လာ.. ကားပေါ်တက်"

"ဗျာ...ဘယ်သွားမလို့လဲ"

"ခရီးထွက်မယ်လေ အဲ့ဒါကြောင့် မင်းကိုစောင့်နေတာ"

ဟာ...မသွားချင်လို့ တိတ်တဆိတ် ထွက်လာပါသည်ဆိုကာမှ သူဌေးနှင့် ပက်ပင်း တိုးတော့သည်။ ကျော်ကျော် မှာတော့ ဘာမှဆင်ခြေ မပေးနိုင်ဘဲ ကားပေါ် ပါသွားတော့သည်။

"မင်းအဝတ်စားတွေ ပါပြီးလား"

"မပါသေးဘူး ခင်ဗျ"

"အင်း မင်းအိမ်ကို အရင်ဝင်ပြီးယူ အားလုံးအဲဒီမှာပဲ ဆုံမယ်လို့ ငါပြောလိုက်အုံးမယ် မင်းခဏစောင့်"

သူဌေးကားပေါ်မှ ဆင်းသွားကာ ရုံးခန်းထဲ ပြန်ဝင်သွားတော့သည်။ ကားပေါ်မှာပါလာသည့် သူဌေးသားရယ် သူ့မိန်းမက ကျော်ကျော်ကို ပြုံးပြကြပါတော့သည်။ ကျော်ကျော် ပြန်ပြုံးလိုက်ပေမယ့် အပြုံးက မပီပြင်ခဲ့။

သူဌေးကိုယ်တိုင်ပါနေတော့ ကျော်ကျော်မှာ အားနာစွာဖြင့် ပါသွားတော့သည်။ ကျော်ကျော် အိမ်သို့ အရင် ဝင်မောင်းပြီး အဝတ်အစားများ အလွယ်တကူး ထုတ်ယူခဲ့တော့သည်။ ထိုနောက် စုရပ်သဘောမျိုးဖြင့် ကျော်ကျော်နေသည့် တိုက်တန်းမှ အားလုံးစုကာ ခရီးဆက်ခဲ့ကြ တော့သည်။

ပေါ့ဒစင် ကမ်းခြေရောက်တော့ ဟိုတယ်တွင် အခန်း စာရင်းပေးကြတော့ ကျော်ကျော် အတွက် သီးသန့် တစ်ခန်း ပေးလိုက်ပါသည်။ ကျော်ကျော် အခန်းက ပင်မဟိုတယ် ကြီး၏ ၅ ထပ်မြောက်မှာပါ။ ပါလာသည့် ရုံးဝန်းထမ်းများကတော့ ပျော်ပျော်ရွှင်ရွှင် စကားသံများဆူညံခြင်းဖြင့် ထွက်ခွာကြသည်။ ကျော်ကျော်မှာတော့ တစ်ယောက်တည်း ငေါင် တောင်တောင်ဖြင့် မိမိအခန်းသို့ ဝင်လိုက်ပါတော့သည်။

"ဟင်..ကိုဇံပ"

မိမိအခန်းထဲတွင် ကိုဇံပကို ရုတ်တရက် မြင်လိုက်တော့ ကျော်ကျော် လန့်သွားသည်။

"အော် မင်းရောက်လာပြီးလား"

"ကိုဇံပက ဒီအခန်းထဲဘယ်လို ရောက်နေတာလဲ"

"အော်..ငါစီစဉ်ပေးလိုက်တာလေ မင်းတို့ ကုမ္ပဏီကို"

"အော် ဒါကြောင့်ကိုး"

ကျော်ကျော် ခုမှသဘောပေါက်သွားသည်။ ထိုကြောင့် သူ့ဌေးမှာသူ့အား အရင်နှင့်မတူ ဂရုတစိုက် နှင့် ခေါ်နေတာဖြစ်သည်။

"ငါလည်း ပင်ပန်းနေပြီး ပြန်ဘို့တောင် နောက်ကျနေပြီး"

“ကိုဇံပက ဘယ်ပြန်မှာလဲ”

“ဒီနေ့ ငါအိမ်ပြန်မယ်လေ တနင်္ဂနွေ ညနေမှ ပြန်လာမယ်”

“အော်..ဒါနဲ့များ ကျွန်တော်ကို စောင့်နေသေးတယ် ဒါနဲ့အကိုက ဖားဇလီး သက်တော်စောင့်ဆို ဖားဇလီး အနားမှာလဲ မနေဘူး”

“ဖာ့ဇလီ လဲပါတယ်လေ သူဘားကို သွားတယ် သွားသောက်နေတယ်”

“ဟာ....သူပါလာတယ်”

“အင်းလေ”

“ဒါဆို အစ်ကိုပြန်လို့ ဘယ်ဖြစ်မလဲ အစ်ကိုယ့်မှာ တာဝန်ရှိတယ်လေ”

“ဒီရက်ပိုင်းတော့ မင်းတာဝန်ယူကွာ”

“ဟာ...ဘယ်ဖြစ်မလဲဗျ”

“အံမယ် မင်းကို ငါယုံပါတယ် မင်းကငါ့ထက်တောင်မှ ဖာ့ဇလီကိုစောင့်ရှောက်နိုင်တယ် ဆိုတာကို၊ မင်းနဲ့ဆိုငါလဲ စိတ်ချတယ်”

“မဖြစ်ပါဘူးဗျာ”

“ငါ့ကို ကူညီပါကွာနော်၊ အိမ်မပြန်ရတာ သုံးလလောက်ရှိပြီး အခု ခွင့်လေးရတုန်း ပြန်ချင်တယ် မင်းငါ့အစား စောင့်ရှောက် ပေးထားကွာနော်”

“ဟာ…အလုပ်မဟုတ်တာ”

“ဟာကွာ…မင်းကလဲ ဈေးကိုင် မနေနဲ့ ငါ့အမေ့ကိုလွမ်းလို့ မင်းကို အကူးအညီ တောင်းတာကို”

ဇံပ အသနားခံ မျက်နှာ အကြည့်လေးဖြင့် ကျော်ကျော်ကို ကြည့်ကာ တောင်းဆိုနေပါသည်။ ကျော်ကျော်လည်း ဇံပပြောလို့ သနားစိတ် ဝင်လာကာ ဒီအတိုင်းကြည့်နေတုန်း ဇံပက ထထွက်သွား ပါတော့သည်။

“ကိုဇံပ..ကိုဇံပ”

“သူ့အပေါ်ဆုံးက ဘားမှာရှိတယ် ခဏနေရင်း ပြန်လာလိမ့်မယ် အခန်းက စောင့်တော့ ငါသွားပြီး၊ နောက်မှ ဖာ့ဇလီ ဆီ ဖုန်းဆက် လိုက်မယ်၊ ဒါပဲ..သွားပြီး အပြန်ကျရင် မုန့်ယူခဲ့မယ်”

ဇံပကတော့ ကျော်ကျော် စကားများကို အပြောမခံတော့ဘဲ ထွက်သွား ပါတော့သည်။

ဇံပကအကြံဖြင့် ဖာ့ဇလီကို ပေါ့ဒစင်ကို ခေါ်လာပြီး နေ့လည်ကတည်းက ရောက်နေကာ ဖာ့ဇလီကို ညနေမှ ဘားသို့ခေါ်သွားသည်။ ထိုနောက် ဝိုင်ကိုတိုက်ကာ ဘီယာပါထက်ဖြည့်ပေးလိုက်သည်။ အချိန်ကောင်းတော့ ဖာ့ဇလီမှာ တော်တော်ကို ရေချိန်ကိုက်နေပြီး။ ဖာ့ဇလီကို ဘားတွင် ထားခဲ့ကာ အခန်းပြန်လာပြီး ကျော်ကျော်ကို စောင့်လိုက်ပြီး အပ်ထားခဲ့လိုက်သည်။ ထိုသို့လုပ်မှပင် သူ့အတွက် ဝန်သက်သာမည်။

ဇံပအပေါ်ထက်သို့ တက်သွားကာ မူးနေသော ဖာ့ဇလီ ကိုခေါ်လာပြီး အခန်းဝတွင် တံခါးခေါက်ကာ ထားခဲ့ပြီး ထွက်သွားတော့သည်။ ဖာ့ဇလီကတော့ နံရံကိုမှီကာ မျက်လုံးမှိတ်လျှက် ရှိနေသည်။

ဖာ့ဇလီမှာတော့ မူးနေကာ ဇံပအကြံအစည်ကိုဘာမှမသိရှာပဲ ခုတော့ဖြင့် အခန်းဝတွင် နံရံကိုမှီကာ ရပ်နေခဲ့တော့သည်။

ဇံပ တံခါးကိုခေါက်ပြီးသည်နှင့် ထောင့်တွင်ရပ်ကာ အခြေအနေကို စောင့်ကြည့်လိုက်တော့သည်။

ကျော်ကျော် အခန်းတံခါး ခေါက်သံကြောင့် ကိုဇံပ ပြန်လာသည် အမှတ်ဖြင့် တံခါးဖွင့်လိုက်ပါတော့သည်။

“ကိုဇံပဗျာ ခင်များ အဲဒီလိုလုပ်.....လုပ်...... အဲ...ဖားဇလီး... မင်းဘာရပ်လုပ်နေတာလဲ”

“အင်း....”

“ဟော့ကောင်...အား... အရက်စော်ကလည်း နံ့ဟောင်နေတာပဲ.. ဘယ်လောက်တောင် သောက်လာလဲမသိဘူး”

ကျော်ကျော်ပြောသမျှကို ဖုဇလီ ကမျက်တောင်စင်းစင်းဖြင့်ကြည့်ကာ

“ကြောင်ကြောင်လား.... အစ်ကို... ရေ... ကျွန်တော့ကို ကြောင်ကြောင် လာပြောင်ပြနေဒယ်ဂျာ... နော်မူးပါဝူးနော်”

“ဟာကွာ...ဒီလောက်အော်မနေနဲ့... လာလာ အခန်းထဲကို”

ဖုဇလီ ပြုံးပြဲပြီး ထက်ကြည့်လိုက်သည်။

“ဟာ ဂယ်ကြီး ကြောင်ကြောင်ပဲ”

“အေးဟုတ်တယ်ဟေ... ကြောင်တာမှ ပြောမနေနဲ့ တစ်ကယ့်ကို ကြောင်ကြောင်ကြီး”

ကျော်ကျော် ဘုတောပစ်လိုက်သည်။

ဇံပလည်း ဖုဇလီ အခန်းထဲဝင်သွားတော့မှ ပြုံးပျော်ကာ ထွက်သွား တော့သည်။

ဖုဇလီ အမူးများပင် ပြေသွားသလိုဖြစ်သွားတော့သည်။ ကျော်ကျော် ဆွဲခေါ်ရာသို့ ယောင်ချာချာ ပါလာသည်။ ဘီယာကပဲ မူးတာလား အချစ်ကပဲ မူးတာလား မပြောတတ်တော့၊ အစောပိုင်းကတော့ ကိုဇံပက တွဲခေါ်လာသည်ကို သိပါသည်။ ခုတော့ အခန်းထဲရောက်တော့ ကျော်ကျော် ဖြစ်နေသည်ကို နားမလည် ရှုပ်ထွေး သွားတော့သည်။

“နေပါအုံး မင်းက ဘယ်လို ရောက်လာတာလဲ”

ကျော်ကျော် ဆွဲခေါ်ရာသို့ လိုက်လာရင်းမှ ဖုဇလီ မေးလိုက်သည်။

“အင်း ......မိုးပေါ်ကကျလာတယ်လို့မှတ် လိုက်”

ကျော်ကျော် အဖြေကြောင့် ဖုဇလီ နည်းနည်းတော့ ခုသွားသည်။ လက်ကို ဆောင့်ရုန်းလိုက်တော့သည်။ ရုတ်တရက်ဆိုတော့ တွဲထားသည့် လက်က ပြုတ်သွားသည်။

ဒုန်း...

အွတ်......

ရုန်းအားက အချိန်များသွားကာ လူကလည်း နည်းနည်းကောင်းနေတော့ ဘေးက ထိုင်ခုန်ဇောင်းနှင့် အရှိန်ကောင်းစွာ တိုက်မိပြီး မှောက်ယက်ကြီး လဲကျသွားတော့သည်။

“ဟာ.....ဖားဇလီး...ဖားဇလီး...ဘာဖြစ်သွားသေးလဲ”

ကျော်ကျော် စိုးရိမ်တကြီး ဖာ့ဇလီ ကိုထွေပွေ့ရန် ကိုင်လိုက်တော့ ဖာ့ဇလီက ကျော်ကျော် လက်ကို ပုတ်ချလိုက်သည်။

“ဟင်...”

“စေတနာမရှိဘဲနဲ့ ဟန်ဆောင်ပြီး လာမကိုင်နဲ့”

“ဘာကွ....ဘာပြောလိုက်တယ်”

“ဟုတ်တယ်လေ...အပိုအလုပ်တွေမလုပ်နဲ့ ...”

“ဟေ့ကောင် မင်းဘာပြောလိုက်တယ်”

“ဟုတ်တယ် ...မင်းရင်ထဲမှာ မပါဘဲ ဂရုလာမစိုက်နဲ့ မင်းကအဲလို ဂရုစိုက်ပြနေ ကြားထဲက ငါပဲဒုက္ခရောက်တယ် ရှုံးရတော့ ငါပဲ၊ မင်းကတော့ ဘာမှမဖြစ်ဘူး၊ တောင်းပန်ပါတယ်ကွာ ငါ့ဘာပဲ ဖြစ်ဖြစ် ဒီအတိုင်းပဲ ထားလိုက်ပါလား မင်းအတွက်ငါက ဘာမှ မဟုတ်ရင် ငါ့ကို သံယောဇဉ်တွေ တွယ်အောင် မရုန်းနိုင်အောင် ကြိုးတွေ တစ်ရစ်ပြီး တစ်ရစ် လာမပတ်ပါနဲ့လား၊ ငါမခံစား နိုင်လို့ပါ”

ကျော်ကျော်သည် ဖာ့ဇလီ ပြောနေသည့်စကားများကို အလုံးစုံနား မလည်ပါ။

"မင်းမူးနေပြီး တော်ပြီးဘာမှပြောမနေနဲ့ ထအုံး လာခဲ့ ငါတွဲပေးမယ် ဘယ်နာထိသွားသေးလဲ"

ဒီတစ်ခါတော့ ဖာ့ဇလီ မရုန်းတော့ပါ အသာတကြည် ကျော်ကျော် တွဲထူတာကို ထလိုက်လာသည်။ ကျော်ကျော် ဖာ့ဇလီ ကိုတွဲထူပြီး ထိုင်ခုံမှာ ထိုင်စေလိုက်ပြီးနောက်၊ ဖာ့ဇလီ၏လက်ကို ကိုင်ကြည့်လိုက်သည်။

"လက်တွေ ထိခိုက်သွားသေးလားလို့ ကြည့်တာပါ"

ဖာ့ဇလီ အသာငြိမ်ကာ ကျော်ကျော် ကိုကြည့်နေမိသည်။

"တော်သေးတာပေါ့ ဘာမှမဖြစ်လို့...မသောက်နိုင်ဘဲ ဘာလို့မူးကွဲအောင် သောက်လာတာလဲ"

"ငါ့ချစ်သူကို....လွမ်းလို့.."

"ဘယ်လို"

"ဟုတ်တယ်...ငါ့ချစ်သူလေးကို လွမ်းလို့"

"အော်......"

ကျော်ကျော် ငိုင်ကျသွားသည်။ ကျော်ကျော်ထင်လိုက်သည် ကတော့ ဖော့ဇလီနှင့် သဘောတူထားသည့် ကောင်မလေးအား ရည်ရွယ်သည်ဟု ထင်မှတ်လိုက်သည်။

ဖော့ဇလီ လက်နှင့် ခန္ဓာကိုယ် တစ်ချို့ အဆိတ်အပိုင်းများကို ကြည့်ပြီးနောက် ကျော်ကျော် ထရပ်လိုက်သည်ကို ဖော့ဇလီက ကျော်ကျော်လက် ကိုလှမ်းဆွဲလိုက်သည်။

"ဘယ်သွားမလို့လဲ"

"ဘာဖြစ်လို့လဲ မင်းလည်းဘာမှ မထိခိုက်ဘူးလေ ငါလည်း အနားယူတော့မယ်"

"ထိခိုက်တာပေါ့"

ကျော်ကျော် မျက်မှောင်ကုတ်ကာ ကြည့်လိုက်ပြီး…

"ဘယ်နေရာမှာလဲ"

ဖော့ဇလီက သူ၏ရင်ဘက်ကို ထောက်ပြသည်။ ကျော်ကျော် အဟုတ်မှတ်ကာ ဖော့ဇလီ၏ အင်္ကျီကို လှန်ကြည့်လိုက်တော့သည်။ ဘာမှရှိမနေပါ။ (မှောက်ယက်လဲကျသွားသဖြင့် စိုးရိမ်ကာကြည့်မိခြင်း ဖြစ်ပါသည်။ )

“ဘာမှလဲ မဖြစ်ပါဘူး”

“ရင်ဘက်ထဲကနာတာဟ”

“ဘာနဲ့ခိုက်မိလို့လဲ”

ကျော်ကျော် နောက်သို့လှည့်လိုက်ပြီး ဖာ့ဇလီ လဲကျသွားသည့် နေရာသို့ ကြည့်လိုက်တော့ ဘာမှရှိမနေပါ။

“ဘာမှလည်း မရှိဘဲနဲ့ကွာ”

“ရင်ဘက်ထဲက အတွင်းထဲက နာတာကွ”

“တော်ပြီး မင်းမူးနေပြီး..နားလိုက်တော့ ငါလည်း ရေချိုးတော့မယ်”

ဖာ့ဇလီသည် ကျော်ကျော် ကိုဘုကြည့်ဖြင့် ကြည့်နေရင်းက မသက်သာစွာ ထရပ်လိုက်ပါတော့သည်။

“ဘယ်သွား အုံးမလို့လဲ”

“မင်းမှ ငါ့မလိုအပ်ဘဲ ငါတစ်ခြားအခန်းကို ပြောင်းမလို့”

“မင်းကို မလိုအပ်လို့ ဟုတ်လား”

“အင်းလေ အရင်လိုငါ့ကိုမှ မချစ်တော့တာ”

“ဘာကွ”

“ဟုတ်တယ်လေ အရင်လိုငါ့အတွက်....”

“တော်...ဆက်မပြောနဲ့...”

“ဘာလို့ မပြောရမှာလဲ ငါ့မှာတော့ အရှုံးတပိုင်းဖြစ်နေတာ မင်းကတော့ နေနိုင်လိုက်တာ မချစ်ဘဲနဲ့ ဘာလို့ ဂရုစိုက်နေလဲကွ၊ ဘာလို့ ဝေဒနာတွေ ပေးနေလဲကွ”

“ဒီမှာကြည့်စမ်း”

ကျော်ကျော် အကျႌကို ဒေါသတကြီး ချွတ်ပစ်လိုက်ကာ ကျဉ်မှန်ထားသော လက်မောင်းကို ပြလိုက်သည်။

“တွေ့လာ...ဟောဒီမှာ ကြည့် လက်ကောက်ဝတ်ကို”

ဖူ့ဇလီသည် ကျော်ကျော် ပြသည့်နေရာများကို ယောင်တောင်ကာ လိုက်ကြည့်နေမိသည်။ လက်ကောက်ဝတ်တွင် ကြိုးကို ရှန်းထားသော ဒဏ်ချက်ကလေးများနှင့် မီးဟပ်ထားသော အကွက်တစ်ချို့တလေများကို ကြောင်ကာ ကြည့်နေမိသည်။

“ငါမင်းကို မချစ်ဘူးဆိုရင် ဒီဒဏ်ရာတွေက ရလာစရာ အကြောင်း မရှိဘူး၊ ဒါတွေကို အမှတ်တရ အနေနဲ့ သိမ်းထား စရာမလိုဘူး၊ အစကတည်းက ဖျောက်လိုက်လို့ရတယ်”

ဖော့ဇလီ မှာတော့ ကျော်ကျော် ပြသည့် ဒဏ်ရာလေးများကို ကြည့်ပြီး မျက်ရည်များဝေ့သီးက ဝဲလာသည်။

"မင်းသာ ငါ့ကိုမချစ်ဘဲ မင်းကောင်းမလေးနဲ့ လက်ထပ်မလို့ စီစဉ်နေတာ မဟုတ်လား"

"ဟင်...ဘယ်က ကောင်းမလေးလဲ"

"ခုမှ ရှူးချင်ယောင် ဆောင်မနေနဲ့"

"မဟုတ်သေးပါဘူး ငါဘယ်သူနဲ့မှ လက်မထပ်ပါဘူး၊ နေပါအုံး မင်းကို ဘယ်သူပြောတာလဲ"

"ကိုဇံပ"

"ကိုဇံပက ပြောတယ် ဟုတ်လား.. နေအုံးငါအခု ဖုန်းဆက်မယ် မင်းဘယ်မှမသွားနဲ့"

ထိုနောက် ဖော့ဇလီ ဘောင်ဘီအိတ်ထဲမှ ဖုန်းထုတ်ကာ ကိုဇံပကို ခေါ်လိုက်သည်။

"အစ်ကို"

"ဟေ...ညီငယ် ဘယ်လိုလည်း အကိုယ့် လက်ဆောင်ကို သဘောကျလား အကိုပေးလိုက်တဲ့ လက်ဆောင်ကို မင်းသဘောကျမယ်လို့ သေခြားပေါက် တွက်ထားတာ"

"ဗျာ"

"အရှူး...မသိဘူးလာ မင်းမူးပြီး အော်နေတဲ့လက်ဆောင်ကို မင်းသဘော မကျဘူးဆိုရင် အစ်ကို ပြန်လာ ခေါ်လိုက်မယ်"

"အာ....ကျတယ် ကျတယ် ကျေးဇူးလည်းတင်တယ် လာမခေါ်နဲ့တော့ ဒါပဲ ဒါပဲ"

ကျော်ကျော် တစ်ယောက် ဖှဲ့ဇလီ ကိုကြောင်ကာ ကြည့်နေမိသည်။ ကိုဇံပကိုခေါ်ပြီး မေးမည်ဟုပြောပြီးမှ မမေးပဲ ဖုန်းချလိုက်သည်။ ကိုဇံပက ဘာတွေပြောလိုက်သည်ကို ကျော်ကျော် မသိပါ။

ဖှဲ့ဇလီ ကျော်ကျော် ကို ပြုံးကာ ကြည့်နေပြီးမှ၊ ကျော်ကျော် ထံသို့ ပြေးသွားပြီး ဖက်လိုက်ပါတော့သည်။

"ချစ်တယ်"

"ဟင်"

ကျော်ကျော်တော့ တစ်ကယ့်ကို ကြောင်ကြောင် ဖြစ်သွားတော့သည်။ ကျော်ကျော် ရင်ခုန်ရမည် ကိုပင် မေ့နေတော့သည်။

"ဘာတွေဖြစ်နေတာလဲ မင်းပဲ ကိုဇံပကို မေးမယ်ပြောပြီး မမေးဘဲနဲ့"

"ထားလိုက်တော့သွား မင်းရေသွားချိုးမလို့ဆို သွားတော့ သွားတော့"

ဖော့ဇလီ ကျော်ကျော် နောက်ကျော်ကို တွန်းပြီး ရေချိုးခန်းထဲသို့ အတင်းဝင်စေသည်။ ကျော်ကျော်ကတော့ နားတော့မလည်ပါ၊ သို့သော် အတွန့်တက်မနေတောဘဲ ရေချိုးခန်းထဲသို့ ဝင်လိုက်ပါတော့သည်။

ဘာတွေဖြစ်နေသည်ကို ကျော်ကျော် အနေနဲ့ ဘာမှကို မလိုက်နိုင်ဘဲ ဖြစ်နေသည်။ ရေချိုးခန်းထဲ ခဏကြာသည့်အထိ စဉ်းစားနေသည်။ ကိုဇံပ ဘာတွေလုပ်နေသည်ကို နားမလည်နိုင်ဘဲ ဖြစ်ရသည်။ ဖော့ဇလီ ကိုလည်း နားမလည်နိုင်တော့ပါ။ ဖြစ်နေသည့် အနေအထားတွေကလဲ ဘယ်လိုတွေ ခရီးဆက်နေသည်ကို နားမလည်နိုင်တော့၊ ဒွိဟများနှင့် ကျော်ကျော် မှာတော့ ခံရခက်စွာ ရှိနေသည်။ ပျော်ရွှင်ရမည်လား ဝမ်းသာရမည်လား ကောင်းကောင်းကို မဝေခွဲနိုင်တော့ပါ။

“အာကွာ ရှုပ်ပါတယ် ရေချိုးတာပဲ ကောင်းတယ် ခေါင်းတွေတောင် ပူလာပြီး”

ကျော်ကျော်ရေချိုးနေတုန်း ဖုဇလီ မရှင်းတာကို ကိုဇံပထံ ဖုန်းခေါ်၍ မေးလိုက်တော့မှ အကြောင်းအစုံ နားလည်လိုက်သည်။

“ဟယ်လို အစ်ကို ကြောင်ကြောင်ကို ဘာတွေ ပြောလိုက်တာတုံး”

“မင်းကို ကျော်ကျော်က ချစ်တယ် မချစ်ဘူးဆိုတာကို စမ်းသပ်တဲ့ အနေနဲ့ မင်းမှာ မိဘ သဘောတူထားတဲ့ ကောင်မလေးနဲ့ လက်ထပ်တော့မယ်လို့ ပြောလိုက်တာ”

“အဲ့ဒါနဲ့ ဘာဖြစ်သွားသလဲ”

“မင်းကောင် ကျော်ကျော်က ပေါက်ကွဲတာပေါ့ကွာ”

“ဟုတ်လား”

“ဟုတ်တယ်ဗျာ မင်းကောင်ကလေ အစကတော့ မြဲစိပါကွာ၊ မင်းလို အရက်သောက်ပြီး မူးပြီးလည်း ဘာမှ မင်းနဲ့ ပက်သက်ပြီး ခံစားချက်တစ်ခုတစ်လေ တောင် မထွက်လာဘူး”

“ဒါဆို အစ်ကိုက ဘယ်လိုသိတာတုန်း”

“ဘယ်ရမလဲ ဇံပပဲဟာ သူတစ်ယောက်တည်း ကျန်ခဲ့တော့မှ ပြန်သွားကြည့်တာ အဲ့ကျမှ အဲ့ကောင်က နံ့ရံကို လက်သီးနဲ့ထိုးပြီး ကြေကွဲနေတော့တာပဲ”

“ဟာဗျာ သူ့လက်နာသွားတော့မှာပေါ့”

“အမလေးဗျာ အဖြစ်သည်းပြမနေနဲ့ အဲ့လောက်ထိလည်း မဟုတ်ပါဘူး”

“ပြီးရော ဒါနဲ့ သူ ဒီကို ဘယ်လိုရောက်လာတာလဲ ဒါလည်း အစ်ကို စီစဉ်လိုက်တာလား”

“ခန့်မှန်းကြည့်ပေါ့ကွ မင်းကလဲ”

“ဟုတ်ကဲ့ပါဗျာ ကျေးဇူးလည်း အရမ်းတင်ပါတယ် ငါ့အစ်ကိုကိုယ်”

“အေးပြီးရော မြို့စိ မလုပ်နဲ့တော့ ဖွင့်ပြောလိုက်တော့”

“ဟုတ်ကဲ့ အစ်ကို စိတ်သာချ ဖွင့်ထုတ်လိုက်တော့မယ်၊ ဒါပဲနော် ကျေးဇူးရှင်ကြီး”

“အိုခေ အိုခေ”

ဖုန်းချလိုက်တော့မှ ဖာ့ဇလီမှာ အပျော်တွေနဲ့ ပို၍ပင် ပျော်သွားတော့သည်။

ကိုဇံပကိုလည်း အရမ်းကျေးဇူးတင်မိသည်။ ထို့နောက် ဖာ့ဇလီသည် ကျော်ကျော် ထွက်လာလျှင် အားလုံး အဆင်ပြေစေရန် အစီအစဉ်များ ပြုလုပ်ပါတော့သည်။

ကျော်ကျော် ရေကိုစိမ်ချိုး နေလိုက်သည်။ တမင်ပင် ခပ်ကြာကြာ ချိုးလိုက်ကာ ဖာ့ဇလီကို တမင်ညစ်ချင်၍ စိမ်ချိုးနေလိုက်သည်။ နာရီဝက် လောက်ကြာတော့ ကျော်ကျော် ချမ်းလာသည်။ ဖာ့ဇလီကလည်း တံခါးပင် လာမခေါက်၊ အခန်းထဲကများ ပြန်ထွက်သွားပြီးလား မပြော တတ်ပါ။ နောက်ဆုံးတော့ ကျော်ကျော် တပတ်ကို ခါးတွင်ပတ်ကာ ပြန်ထွက် လာခဲ့တော့သည်။

"ဟင်..."

တံခါးဖွင့်လိုက်တော့ အခန်းထဲတွင် ညမီးကလေးသာ ဖွင့်ထားပြီး ခပ်မှောင်မှောင် အနေထားတွင် ရှိနေတော့သည်။ အခန်း၏ ထောင့်နေရာ တွင် ဖာ့ဇလီက ရှိနေသည်။

"ဘာဖြစ်လို့လဲ"

"အဝတ်တွေလည်း ဝတ်ပါအုံး ဒါမှမဟုတ် ဒီအတိုင်းပဲ နေလဲ ရပါတယ်"

ဖုဇလီ ပြောမှအသိဝင်လာကာ အဝတ်အိတ်ကိုယူကာ အဝတ်အစား ထုတ်ကာ လဲလိုက်ပါသည်။ အဝတ်လဲလို့ အပြီးမှာ နောက်မှ သိုင်းဖတ် လိုက်သော ဖုဇလီကြောင့် ကျော်ကျော် ကြည်နူးသွားသည်ကိုတော့ မညာချင်ပါ။

“ဘာတွေ အထူးဆန်းတွေ လုပ်နေတာလဲ”

“လာ ဒီနားကို”

ဖုဇလီ ကကျော်ကျော်လက်ကို ဆွဲခေါ်ကာ အစောပိုင်းက ဖုဇလီ ထိုင်နေခဲ့သော နေရာသို့ ပြန်ခေါ်သွားသည်။

“ဒါတွေက ဘာတွေတုန်း”

“ဝိုင်နဲ့ စပျစ်သီးတွေရယ် ပန်းသီးရယ်”

“ဘယ်တုံးက ယူလာတာလဲ”

“မင်းရေချိုးနေတုန်း ဟိုတယ်က မှာလိုက်တာ”

“အော်..ဒါနဲ့များ မီးတွေဘာတွေ မှိန်ထားသေးတယ်”

“အင်းပေါ့ ငါချစ်တဲ့သူကို ငါက ဒီလိုကြိုဆိုချင်လို့လေ”

"ငါ့ကို ပြောတာလား"

"ဟုတ်ဘူး"

ထိုစကားကြောင့် ကျော်ကျော် ကျွဲမှီတိုသွားသည်။

"ဒါဆို မင်းကောင်မလေး အတွက်လာ ဒါနဲ့များ ငါ့ကိုခေါ်နေသေးတယ်"

"ငါ့ကောင်မလေးရော ငါလက်ထပ်ရမည့် ကောင်မလေးရော မရှိပါဘူးကွာ မင်းကို ကိုဇံပ နောက်လိုက်တာ ဖြစ်မယ်"

ကျော်ကျော် မှာတော့ ဖုဇလီ ကိုမယုံသလို ကြည့်လိုက်သည်။

"ကိုဇံပကပြောတယ် မင်းကို ငါ့မှာလက်ထပ်ရမည့် ကောင်မလေး ရှိနေပြီးဆိုပြီ နောက်ပြောင်ခဲ့တယ်တဲ့လေ"

"ဒါဆိုမင်းချစ်သူက ဘယ်သူတုန်း"

"ငါ့ရဲ့ပထမဦးဆုံးသော အနမ်းကို အတင်းယူသွားတဲ့ ကောင်လေး ပေါ့"

ဖုဇလီ ကျော်ကျော် နူတ်ခမ်းလေးများကို လက်ဖြင့်ပွတ်ကာ ပြောလိုက်သည်။ ကျော်ကျော် အသည်း ယားသွား တော့သည်။

“ပြီးတော့ ငါ့ကို သူ့အသက်ကို မနှမြောပဲ သက်စွန့်ကာ ကယ်ခဲ့တဲ့ချစ်သူလေးကိုပေါ့”

ကျော်ကျော် မျက်ရည်များဝေ့ကာ တက်လာသည်။ ကြည်းနူးသော မျက်ဝန်းမှ မျက်ရည်ကြည်များပါ။

“သူ့ကိုလေ ငါနေ့တိုင်း သတိရနေတာ”

“ဘာဖြစ်လို့သူနဲ့ မဆက်သွယ်သလဲ သူလည်းမင်းကို သတိရနေတာ လွမ်းနေတာ မသိဘူးလား”

“အမှန်တိုင်း ပြောရရင် ငါလည်း တစ်ဖက်သက် အတွေးတွေနဲ့ တစ်ဖက်သက် ကြွေကွဲခဲ့နေတာ၊ ငါ့ချစ်သူလေးက ငါမဟုတ်တဲ့ တစ်ခြားသောသူနှင့် ဖြစ်နေတယ်လို့ တွေးမိပြီး ကြေကွဲနေခဲ့တာ”

“အနည်းဆုံးတော့ သူ့ဆီသွားသင့်တယ် ပြီးတော့ မေးသင့်တယ် မဟုတ်လား”

“ငါသွားခဲ့ပါတယ် နေ့တိုင်းနီးပါပဲ သွားခဲ့တာ၊ သူနေတဲ့ တိုက်ခန်း လေးကို အောက်ကနေ မော့ကြည့်ရတဲ့ အရသာ မင်းမခံစားဘူး တော့ ဘယ်သိမလဲ၊ ဒါပေမယ့် တိတ်တဆိတ် ပြန်ထွက်ခဲ့ တာကြီးပဲ”

"မင်းကွာ"

ကျော်ကျော် မျက်ရည်များ မထိမ်းနိုင်တော့ ကျသွားခဲ့ပါသည်။ ဖှဲ့ဇလီ၏ လက်က ကျော်ကျော် မျက်ရည်များကို တယုတယ သုတ်ပေးရင်က၊

"မငိုပါနဲ့ချစ်သူရယ်"

"ငါ့ကို ဘာလို့ လာမတွေ့တာလဲ ငါမှာတော့ အိမ်လေးထဲမှာ တစ်ယောက်တည်း ဘယ်တော့လာမလဲလို့ စောင့်နေခဲ့တာ၊ မင်းအတွက် တံခါးလေးက စေ့ရုံလေးပဲ ထားခဲ့တာ၊ အဲဒီတံခါးလေး ထဲက ဘယ်တော့ မင်းခြေလှမ်းလေ ဝင်လာမလဲ လို့စောင့်နေ ခဲ့တာ"

"ငါတောင်းပန်ပါတယ် ခုလိုအထင်အမြင်တွေ လွဲနေတဲ့ တစ် လျှောက်မှာ မင်းကိုစိတ်ညစ်စေ ခဲ့လိုလေ"

ကျော်ကျော် ဖှဲ့ဇလီ ကိုဆွဲကာဖက်လိုက်ပါတော့သည်။

"ငါရင်ခွင်ထဲက နောက်တစ်ကြိမ်တော့ ထွက်မသွားပါနဲ့ကွာ"

"မင်းသာ ငါ့ကိုရိုးသွားပြီး သွားပါလို့မပြောမခြင်း ငါမင်းရင်ခွင် ထဲမှာ ပဲနေမယ်"

"တစ်ကယ်နော်"

“ငါ့မျက်ဝန်းတွေရယ် ငါ့နှလုံးသားကို နားဆင်ပြီးမှ မေးပါလား”

ကျော်ကျော် ဘာမှမပြောတော့ပါ ဖာ့ဇလီကို တင်းတင်းရင်း ဖက်ထား လိုက်ပါတော့သည်။

“ချစ်တယ် ဖားဇလီးရယ်”

“ငါလည်း အရမ်းချစ်တယ် ကြောင်ကြောင်ရယ်”

အရင်က မပွင့်မလင်းနှင့် တစ်ဖက်သတ်ဆီ ခံစားနေရသည့် ချစ်ခြင်းများ သည် ယခုတော့ တစ်ဖက်သတ် အတွေးများက ကိုယ်ဆီမှားယွင်း နေသည်ကို သဘောပေါက်နေကြသည်။ ထိုချစ်သူ ကောင်လေး နှစ်ယောက်၏ ချစ်ခြင်းသည် လမ်းမှားစွာ မထင်မှတ်ဘဲ တစ်ရစ်နဲ့ တစ်ရစ်တိုးလို့ ချစ်ခြင်းများကို ရင်ခုန်သံများနှင့် ပေါင်းဖက်၍ အတူတူ စီးမျော်နေကြပါတော့သည်။

ချစ်ခြင်းတွေ ရင်ခုန်သံတွေ ပွေ့ဖက်ကြည်နူးခြင်းတွေဆိုတာ အနည်း ဆုံးတော့ နီးဆက်မှ ဖြစ်နိုင်သည် မဟုတ်လား။

ရင်ခုန်သံတွေ ထပ်တူကြဖို့ဆိုတာ ပွင့်လင်းဖို့လည်း လိုအပ်သည်။ ကျော်ကျော် ရင်ခုန်သံခံစားချက်ထဲကို လမ်းမှားစွာ ရောက်လာသည့် ဖာ့ဇလီကို သက်ဆုံးတိုင် အတူရှိနေပေးဖို့ ဆုတောင်းနေမိသည်။

ကျွန်တော့ချစ်ခြင်းတွေနဲ့ ကျွန်တော်ချစ်သော ချစ်သူလေးအား အရာရာကို ဖြည့်စည်းပေးနိုင်ပါစေသား။

“ချစ်တယ်ကွာ............”

**အချစ်သည် တစ်ခါတရံ လမ်းမှားတတ်သည်။**

ဖေးမမှုတွေနဲ့ သံယောဇဉ်က စခဲ့တော့

ဖက်တွယ်လာမိတော့တယ်။

ရင်ခုန်မှုတွေနဲ့ ချစ်ခြင်းက စခဲ့တော့

မြတ်နိုးလာမိတော့တယ်။

နေရာဒေသ ကွဲပြားနေလည်း

ချစ်ခြင်းတွေက မှားယွင်းစွာ ရင်ခုန်မှုနဲ့ စခဲ့တော့တယ်။

တိမ်တွေရောင်စဉ် အောက်မှာ တစ်ဦးကိုယ် တစ်ဦး

ရစ်ပတ်လို့ထားပြီး နှုတ်က မဖွင့်ဟလည်း

ရင်ခုန်သံတွေ ထပ်တူကျခဲ့လို့ ချစ်မိကြသည်ဟု ဆိုလျှင်

အချစ်သည် တစ်ခါတရံ လမ်းမှားပြီး ဝင်ရောက်လာတော့သည်။

(ပြီးပါပြီ)

(အားလုံးကိုကျေးဇူးတင်ပါတယ်၊ ချစ်သူတိုင်း မခွဲအတူရှိကြပါစေ။)

**Jin Jar**

**(၂၉-၅-၂၀၁၂)**